Amazing Advanced Transforming & Manufacturing Co.,Ltd

# Amazing Advanced Transforming & Manufacturing Co., Ltd
# AATM

# စပါးခွံလောင်စာတောင့် ထုတ်လုပ်ရောင်းချသောလုပ်ငန်း



## “လုပ်ငန်းအဆိုပြုလွှာ”

ဧရာဝတီတိုင်းဒေသကြီး

ဇန်နဝါရီလ
၂၀၁၈

his proposal has been prepared as part of application process for establishing biomass fuel (rice husk pellet)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
စာအမှတ်-------
ရက်စွဲ-------
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

ပုံစံ (၄-ခ)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံသူ၏အတည်ပြုလျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ

ဧရာဝတီ တိုင်းဒေသကြီး / ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ် ၊ ၀၁/ရ၁၁/၀၄၀၁၈

ရက်စွဲ ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီ လ ၁၂ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၇ နှင့်အညီ အောက်ဖော်ပြပါ အချက်များအား ဖြည့်စွက်၍ အတည်ပြုလျှောက်ထားလွှာကို တင်ပြလျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏

(က) အမည် ဦးအေးကို (မ.ဒ) အမေးဇင်းအက်ဗန့်(စ်) ထရန်စဖော်မင်း(န်) အန်းမန်နူဖက်ချာရင်း ကုမ္ပဏီလီမိတက်

(ခ) ကုမ္ပဏီမှတ်ပုံတင်အမှတ် သို့မဟုတ် ၄၁၈၃/၂၀၁၇-၂၀၁၈(ရက)

ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ် ၁၂/ဥကမ(နိုင်)၀၆၁၇၇၄

အမှတ်/နိုင်ငံကူးလက်မှတ်အမှတ်

(ဂ) နိုင်ငံသား မြန်မာ

(ဃ) နေရပ်လိပ်စာ/ မှတ်ပုံတင်ထားသည့်ကုမ္ပဏီလိပ်စာ [illegible]

(င) တယ်လီဖုန်း /ဖက်စ် / အီးမေးလ်လိပ်စာ ၀၉-၇၈၁၈၀၈၈၁၈၊ ၀၉-၅၁၈၁၄၆၈, koayeko708@gmail.com

(စ) လုပ်ငန်းအမျိုးအစား(အသေးစိတ်ဖော်ပြပေးရန်) [illegible]

**မှတ်ချက်။** အောက်ပါအချက်များကိုပူးတွဲတင်ပြရန်-

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားမိတ္တူ

(၂) နိုင်ငံသားစိစစ်ရေးကတ်မိတ္တူနှင့်နိုင်ငံကူးလက်မှတ်မိတ္တူ

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏ -

(က) အမည်

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်

(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့်နေရပ်လိပ်စာ

စိုးအောင်
အတွင်းရေးမှူး
တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ဧရာဝတီတိုင်းဒေသကြီး

U Aye Ko
Managing Director
Amazing Advanced
Transforming & Manufacturing Co., Ltd.

(စ) တယ်လီဖုန်း /ဖက်စ် ..........

(ဆ) အီးမေးလ်လိပ်စာ ..........

**မှတ်ချက်။** တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်

၃။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်

☑ ရာခိုင်နှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်ခြင်း (ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

☐ အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့်ဆောင်ရွက်ခြင်း (စာချုပ်မူကြမ်းတင်ပြရန်)

မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး ....၁၀၀.... %

အစိုးရဌာန၊ အစိုးရအဖွဲ့အစည်း၏အစုရှယ်ယာပိုင်ဆိုင်မှုအချိုး ..........%

နိုင်ငံခြားသားရင်းနှီးမြှုပ်နှံသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး ..........%

၄။ အစုရှယ်ယာ ၁၀ % နှုန်းနှင့်အထက်ပိုင်ဆိုင်သောအစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု% |
|---|---|---|---|
| ၁ | ဦးအောင်ခို | မြန်မာ | ၁၄% |
| ၂ | ဦးအောင်အောင်တင် | မြန်မာ | ၁၄% |
| ၃ | ဦးအောင်ကျော်လင်း | မြန်မာ | ၁၄% |
| ၄ | ဦးဝေး[illegible] | မြန်မာ | ၇% |
| ၅ | ဦးတင်ဦး | မြန်မာ | ၅၁% |
| | | | |

၅။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း ..........၁၁ သိန်း (၅၀၀၀)..........

(ခ) အစုရှယ်ယာအမျိုးအစား ..........[illegible]..........

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ ..........(၅၀၀၀၀)..........

..........

**မှတ်ချက်။** သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ကုမ္ပဏီဖွဲ့စည်းပုံအခြေခံစည်းမျဉ်း ပူးတွဲတင်ပြရန်

စိုးအောင်
အတွင်းရေးမှူး
တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ရခိုင်တိုင်းဒေသကြီး

U Aye Ko
Managing Director
Amazing Advanced
Transforming & Manufacturing Co., Ltd.

၆။ မတည်ငွေရင်းနှင့်သက်ဆိုင်သည့်အချက်အလက်များ-

| | ကျပ်/US$(သန်းပေါင်း) |
|---|---|
| (က) ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း | (၂၅၀) |
| (ခ) နိုင်ငံခြားမှယူဆောင်လာသည့်မတည်ငွေရင်း ပမာဏ/ ရာခိုင်နှုန်း | - |
| | - |
| စုစုပေါင်း | (၂၅၀) |

၇။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း ၁၀ နှစ်

၈။ ဆောင်ရွက်မည့်စီးပွားရေးအဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ(များ)/တည်နေရာ ဧရာဝတီတိုင်းဒေသကြီး၊ ဝါးခယ်မမြို့နယ် [illegible]

(ခ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး/ပမာဏ ကျပ်သိန်း (၂၅၀၀)

၉။ သက်ဆိုင်ရာအဖွဲ့အစည်းများ၏ ခွင့်ပြုချက်၊ လိုင်စင်၊ ပါမစ်စသည်တို့ ရရှိပြီးပါက ပူးတွဲတင်ပြရန်။

၁၀။ လုပ်ငန်းစတင်ဆောင်ရွက်နေခြင်း ☐ ရှိ၊ ☒ မရှိ

ရှိပါကလုပ်ငန်းဆောင်ရွက်မှုအခြေအနေကို ဖော်ပြပေးရန်

..........

..........

၁၁။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ အောက်ဖော်ပြပါ လျှောက်ထားလွှာများကို တင်ပြလျှောက်ထားခြင်းရှိ/မရှိ ဖော်ပြရန်။

☑ မြေအသုံးပြုခွင့်လျှောက်ထားလွှာ

☑ အခွန်ကင်းလွတ်ခွင့်သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ

စိုးအောင်
အတွင်းရေးမှူး
တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ဧရာဝတီတိုင်းဒေသကြီး

U Aye Ko
Managing Director
Amazing Advanced
Transforming & Manufacturing Co., Ltd.

## ကတိဝန်ခံချက်

အထက်ဖော်ပြပါ လျှောက်ထားသူမှပေးအပ်သည့် အချက်အလက်များအားလုံးသည် မှန်ကန်မှု ရှိပါကြောင်းအာမခံပါသည်။

ဤအတည်ပြုလျှောက်ထားလွှာတွင် အတည်ပြုမိန့် ထုတ်ပေးရန်အတွက် ကော်မရှင်မှ စိစစ်ရာ၌ လိုအပ်သည့်အချက်အလက်များကို လျှောက်ထားသူကပေးအပ်ရန် ပျက်ကွက်ပါက အတည်ပြုလျှောက်ထားလွှာကို ငြင်းပယ်ခြင်း သို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့် နှောင့်နှေး ကြန့်ကြာခြင်းတို့ ဖြစ်ပေါ်နိုင်ကြောင်း ကောင်းစွာသဘောပေါက် နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ချမှတ်မည့် စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လျှောက်ထားသူလက်မှတ်

အမည် ဦးအေးကို

ရာထူး မန်နေဂျင်းဒါရိုက်တာ

ဌာန/ကုမ္ပဏီတံဆိပ်

U Aye Ko
Managing Director
Amazing Advanced
Transforming & Manufacturing Co., Ltd.

Amazing Advanced Transforming & Manufacturing Co., Ltd.
No.
Date.

ဗိုးအောင်
အတွင်းရေးမှူး
တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ရှောဝတီတိုင်းဒေသကြီး

ပုံစံ (၇-၈)

# မြေအသုံးပြုခွင့်လျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ

ဧရာဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ် ၊ ထ/ရသ/၀၅၈၁၈

ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီလ၊ ၁၁ရက်

အကြောင်းအရာ ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်ရန် မြေငှားရမ်းခွင့် သို့မဟုတ် မြေအသုံးပြုခွင့် လျှောက်ထားခြင်း။**

ကျွန်တော်သည် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်ရန်အတွက် မြေငှားရမ်းခွင့် သို့မဟုတ် မြေအသုံးပြုခွင့်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၁၆ နှင့် အညီ အောက်ပါအချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်-

၁။ မြေ/အဆောက်အအုံ၏ ပိုင်ရှင်နှင့် စပ်လျဉ်းသောအချက်အလက်များ

(က) ပိုင်ရှင်အမည်/အဖွဲ့အစည်း ... ဦးအေးကို(MD)အမေးဇင်းအက်ဗန် (ချ်)ထရန်စဖောမင်းအင် (န်) မန်နယူဖက် ချားရင်း ကုမ္ပဏီလီမိတက် ........................................

(ခ) ဧရိယာအကျယ်အဝန်း.................. (၂.၀၀)ဧက..........................................

(ဂ) တည်နေရာ...... ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ညောင်တုန်းမြို့နယ်၊ တူးချောင်းကျေးရွာအုပ်စု၊ ကွင်းအမှတ် (၄၀၉)၊ တူးချောင်းအကွက်၊ ဦးပိုင်အမှတ် (၂၂၈)ရှိလယ်မြေ..........

(ဃ) မူလမြေအသုံးပြုခွင့်ရရှိထားသောကာလ (မြေငှားဂရမ်သက်တမ်း) ......................

(င) နှစ်ရှည်ငှားရမ်းခများကို မတည်ရင်းနှီးငွေအဖြစ် ဖော်ပြခဲ့ခြင်းရှိ-မရှိ......................

(စ) ကနဦးငှားရမ်းသူကသဘောတူ/မတူ ..............သဘောတူ.........................

(ဆ) မြေအမျိုးအစား ..............လယ်မြေ (အခြားနည်းအသုံးပြုခွင့်လျှောက်ထားဆဲ)........

၂။ အငှားချထားသူ

(က) အမည်/ကုမ္ပဏီအမည်/ဌာန/ အဖွဲ့အစည်း ................................................

စိုးအောင်
အတွင်းရေးမှူး
တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ဧရာဝတီတိုင်းဒေသကြီး

U Aye Ko
Managing Director
Amazing Advanced
Transforming & Manufacturing Co., Ltd.

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ် ........................................

(ဂ) နေရပ်လိပ်စာ ........................................

၃။ အငှားချထားခြင့်ခံရသူ

(က) အမည်/ကုမ္ပဏီအမည်/ဌာန/ အဖွဲ့အစည်း ......ဦးအေးကို(MD)အမေးဇင်းအက်ဗန် (ချ်) ထရန်စဖောမင်း အင် (န်) မန်နယူဖက် ချားရင်း ကုမ္ပဏီလီမိတက် ........................

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ... ၁၂/ဥကမ (နိုင်)၀၆၁၇၇၄ ...

(ဂ) နိုင်ငံသား .............. မြန်မာနိုင်ငံသား ........................................

(ဃ) နေရပ်လိပ်စာ ... အခန်း (၇၀၈)၊အဆောက်အဦး (C)၊ ပုလဲကွန်ဒို၊ကမ္ဘာအေးဘုရားလမ်း၊ ဆရာစံရပ်ကွက်၊ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။........................................

၄။ ငှားရမ်းလိုသည့်မြေနှင့် စပ်လျဉ်းသည့်အချက်အလက်များ

(က) ရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းအမျိုးအစား ...စပါးခွံလောင်စာတောင့်ထုတ်လုပ်ရောင်းချခြင်း ...

(ခ) ရင်းနှီးမြှုပ်နှံသည့် အရပ်ဒေသ (များ) .............. ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ ညောင်တုန်းမြို့နယ်၊ တူးချောင်းကျေးရွာအုပ်စု၊ ကွင်းအမှတ် (၄၀၉)၊ တူးချောင်းအကွက်၊ ဦးပိုင်အမှတ် (၂၂၈) ........................................

(ဂ) တည်နေရာ (ရပ်ကွက်၊ မြို့နယ်၊ ပြည်နယ်/တိုင်းဒေသကြီး) ... ဧရာဝတီတိုင်းဒေသကြီး၊ မအူပင်ခရိုင်၊ ညောင်တုန်းမြို့နယ်၊ ........................................

(ဃ) မြေဧရိယာအကျယ်အဝန်း .............. (၂.၀၀)ဧက ........................................

(င) အဆောက်အအုံအရွယ်အစား/အရေအတွက် ...ကားရပ်နားကွင်း (၀.၉၄ဧက)၊ဝန်ထမ်းအိမ်ယာ (၀.၁၀ဧက)၊ဂိုဒေါင် (၀.၄၄ဧက)၊ရေချိုးခန်းအိမ်သာ (၀.၀၉ဧက)၊လောင်စာတောင့်ထုတ်လုပ်ရေးစက်ရုံ (၀.၃၃ဧက) ၊ရုံးခန်း (၀.၀၉ဧက) ၊ ထရန်စဖော်မာရုံ (၀.၀၁ဧက) ..........

(စ) အဆောက်အအုံတန်ဖိုး .................... သိန်း (၄၀၀)ကျပ် ........................

၅။ မြေပိုင်ဆိုင်မှု/မြေဂရန်အထောက်အထား (စက်မှုဇုန်မှအပ)၊ မြေပုံနှင့် မြေငှားစာချုပ် (မူကြမ်း) တင်ပြရန်။

၆။ မြေငှားရမ်းခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပုဂ္ဂိုလ်ထံမှ တစ်ဆင့်ငှားရမ်းထားခြင်း ရှိ – မရှိ –

☐ နိုင်ငံတော်၏ ဥပဒေများနှင့် အညီအစိုးရဌာန၊ အစိုးရအဖွဲ့အစည်းထံမှ နိုင်ငံတော်ပိုင်မြေ သို့မဟုတ် အဆောက်အအုံ အသုံးပြုခွင့်အား ယခင်ကပင် ရရှိထားသောပုဂ္ဂိုလ်၊

စိုးအောင်
အတွင်းရေးမှူး
တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ဧရာဝတီတိုင်းဒေသကြီး

U Aye Ko
Managing Director
Amazing Advanced
Transforming & Manufacturing Co., Ltd.

☐ အစိုးရဌာန၊ အစိုးရအဖွဲ့အစည်း၏ ခွင့်ပြုချက်နှင့်အညီ နိုင်ငံတော်ပိုင်မြေသို့မဟုတ် အဆောက်အအုံအား တစ်ဆင့်ငှားယူရန် သို့မဟုတ် တစ်ဆင့်လိုင်စင် ရယူရန်အခွင့်ရှိသည့်ပုဂ္ဂိုလ်။

၇။ မြေ/အဆောက်အအုံ ငှားရမ်းခနှုန်း (တစ်နှစ်လျှင် တစ်စတုရန်းမီတာအတွက်) ................

........................................................................................................

၈။ မြေအသုံးချမှု ပရီမီယံကြေး (Land Use Premium – LUP ) (အစိုးရဌာန/ အစိုးရအဖွဲ့အစည်းပိုင် မြေငှားရမ်းခြင်းဖြစ်ပါက အငှားချထားခြင်းခံရသူထံမှ ငွေသားဖြင့် LUP တောင်းခံပါမည်။)

တစ်ကြေနှုန်း ..................................................................................

၉။ မူလမြေငှားရမ်းခွင့်ရှိသူ သို့မဟုတ် မြေအသုံးပြုခွင့်ရသူမှ ......... သဘောတူ ..................

ငှားရမ်းရန် သဘောတူ / မတူ

၁၀။ လျှောက်ထားသည့် မြေ သို့မဟုတ်....စက်မှုမြေဂရန်၊နိုင်ငံတော်မှခွင့်ပြုပေးသောဂရန်သက်တမ်း အတိုင်း....

အဆောက်အအုံ ငှားရမ်း/အသုံးပြုခွင့် သက်တမ်း

၁၁။ စက်မှုဇုန်၊ ဟိုတယ်ဇုန်၊ ကုန်သွယ်ရေးဇုန် .........................မဟုတ်ပါ.......................

အစရှိသည့် သက်ဆိုင်ရာလုပ်ငန်းဇုန်ဧရိယာ .................................................

အတွင်းရှိ မြေဟုတ်/မဟုတ် (ဇုန်ကိုဖော်ပြရန်)

စိုးအောင်
အတွင်းရေးမှူး
တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ရောဝတီတိုင်းဒေသကြီး

လျှောက်ထားသူလက်မှတ်

အမည်...........ဦးအေးကို...........

ရာထူး.......မန်နေဂျင်းဒါရိုက်တာ.......

ဌာန/တံဆိပ်...................

U Aye Ko
Managing Director
Amazing Advanced
Transforming & Manufacturing Co., Ltd.

Amazing Advanced Transforming & Manufacturing Co., Ltd.
No.........
Date.........

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ရေဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မရှင်
စာအမှတ်-------
ရက်စွဲ-------



## အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် လျှောက်ထားလွှာ

ဥက္ကဋ္ဌ

ရေဝတီတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊ ထ/ရသ/၀၃၈၁၈

ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီလ၊ ၁၁ရက်

အကြောင်းအရာ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် လျှောက်ထားခြင်း

ကျွန်တော်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၇၄ အရအခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်များ ခံစားရရှိရေးအတွက် အောက်ဖော်ပြပါ အချက်များအား ဖြည့်စွက်၍ လျှောက်ထား အပ်ပါသည်–

၁။ ရင်းနှီးမြှုပ်နှံသူ၏
(က) အမည် …………………… ဦးအေးကို……………………
(ခ) ကုမ္ပဏီအမည် ……………အမေးဇင်းအက်ဗန် (ချ်)ထရန်စဖောမင်းအင် (န်) မန်နယူဖက်ချား ရင်း ကုမ္ပဏီလီမိတက် ……………………
(ဂ) လုပ်ငန်းအမျိုးအစား …… စပါးခွံလောင်စာတောင့် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း …
(ဃ) ခွင့်ပြုမိန့်အမှတ် သို့မဟုတ် အတည်ပြု မိန့်အမှတ် (လျှောက်ထားဆဲဖြစ်ပါက လျှောက်ထားဆဲဖြစ်ကြောင်း ဖော်ပြရန်) ……လျှောက်ထားဆဲ ……………….

၂။ ရင်းနှီးမြှုပ်နှံသူ ကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏ –
(က) ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည် ……………………………….
(ခ) နိုင်ငံသားစိစစ်ရေးကတ်/ နိုင်ငံကူးလက်မှတ်အမှတ် ……………………………….

၃။ တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလ ……………… (၆)လ……………….

၄။ စီးပွားဖြစ်စတင်ဆောင်ရွက်သည့်နေ့ ……………………………….

၅။ အောက်ပါအခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ခံစားခွင့်ပြုနိုင်ပါရန် လျှောက်ထား အပ်ပါသည်–
(က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၇၅ (က) ပါဝင်ငွေခွန်ကင်း လွတ်ခွင့်
(–) ……………………………………………………….
(–) ……………………………………………………….

(–) …………………………………………………………………………….

**မှတ်ချက်။ မိမိလျှောက်ထားလိုသည့် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ဖော်ပြရန်**

၆။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၅ (က) ပါဝင်ငွေခွန် ……… မအူပင်ခရိုင် ………
ကင်းလွတ်ခွင့်လျှောက်ထားမည်ဆိုပါက နည်းဥပဒေ၈၃နှင့် …… ညောင်တုန်းမြို့နယ် ………
အညီလုပ်ငန်းဆောင်ရွက်နေသည့်ဇုန်နေရာသို့မဟုတ်နည်း …… ဇုန် (၂) ………………
ဥပဒေ၉၆နှင့်အညီတွက်ချက်ထားသောရင်းနှီးမြှုပ်နှံမှု …………………………
လုပ်ငန်းတန်ဖိုး၊ဖြ၅ရာခိုင်နှုန်းအထက်အားရင်းနှီးမြှုပ်နှံ …………………………
ထားသည်သို့မဟုတ်လုပ်ငန်းဆောင်ရွက်နေသည့် ဇုန်နေရာ…………………………
ကိုဖော်ပြ ပေးရန်

၇။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၇ (က) နှင့် (ဃ) ကို လျှောက်ထားမည် ဆိုပါက နည်း ဥပဒေ ၈၄ ပါအချက်များကို ဇယား (၁) တွင်ဖြည့်စွက်ရန်။

၈။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၇ (ခ) အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် လျှောက်ထားမည် ဆိုပါကဇယား (၂) နှင့်အောက်ပါ အချက်အလက်များကို ဖော်ပြပေးအပ်ရန် –

(က) ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းမှ ရရှိမည့် တစ်နှစ်စာ မျှော်မှန်းဝင်ငွေ ……………သိန်းပေါင်း (၅၁၃) ………

(ခ) ပို့ကုန်များမှရရှိသော တစ်နှစ်စာ နိုင်ငံခြားငွေ …………………………

၉။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၈ (က) အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် လျှောက်ထားမည် ဆိုပါက နည်းဥပဒေ ၉၉ နှင့်အညီ တစ်ဖက်ပါ အချက်အလက်များကို ဖော်ပြပေးအပ်ရန် –

(က) မည်သည့်ဘဏ္ဍာနှစ်တွင်ရရှိခဲ့သည် အမြတ်ငွေဖြစ်ကြောင်းဖော်ပြရန် …………………………

(ခ) မည်သည့်ဘဏ္ဍာနှစ်အတွက်ပြန်လည် ရင်းနှီးမြှုပ်နှံလိုကြောင်းဖော်ပြရန် …………………………

(ဂ) ပြန်လည်ရင်းနှီးမြှုပ်နှံမည့် ပမာဏ ကိုဖော်ပြပေးရန် …………………………

၁၀။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၈ (ခ) အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် လျှောက်ထားမည် ဆိုပါက အောက်ပါ အချက်အလက်များကို ဖော်ပြပေးအပ်ရန်–

(က) နိုင်ငံတော်၏ သက်ဆိုင်ရာ ဥပဒများအရ ခွင့်ပြုထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းထားနှင့် ၎င်းနှုန်းထား၏ ၁.၅ဆနှင့် တူညီသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းထားတို့ကို ယှဉ်တွဲတွက်ချက် ဖော်ပြထားသည့် ပစ္စည်း တန်ဖိုး လျော့တွက်နှုန်းထားတွက်ချက်မှုကို ပူးတွဲတင်ပြရန်။

(ခ) ရင်းနှီးမြှုပ်နှံသူသည် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းထားကို တွက်ချက်ခံစားခွင့်အတွက် အခြားသက်ဆိုင်ရာ အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းထံ သီးခြားလျှောက်ထားခြင်း သို့မဟုတ် ရရှိထားခြင်းရှိ ၊ မရှိ။

၁၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၈(ဂ) အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် လျှောက်ထားမည် ဆိုပါက ဘဏ္ဍာနှစ်အတွက် သုတေသနနှင့် ဖွံ့ဖြိုးရေးလုပ်ငန်းများ၏ အမှန်တကယ် ကုန်ကျစရိတ်ကို စာရင်းပြုစု၍ ပူးတွဲတင်ပြရန်။

လျှောက်ထားသူလက်မှတ်

အမည် ...ဦးအေးကို...........

ရာထူး ......မန်နေးဂျင်းဒါရိုက်တာ......

ဌာန/ကုမ္ပဏီတံဆိပ် ............ .

Amazing Advanced Transforming & Manufacturing Co., Ltd.

No...................

Date.................

U Aye K

Managing

Amazing A

Transforming & Manufacturing Co., Ltd.

သို့

ဥက္ကဋ္ဌ
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊ ထ/ရသ/၀၀၆၄၈
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီလ ၁၂ ရက်

**အကြောင်းအရာ ။ ။ A.A.T.M ကုမ္ပဏီ၏ စပါးခွံလောင်စာတောင့်ထုတ်လုပ်ရောင်းချမည့်လုပ်ငန်းတွင် ခန့်အပ်တာဝန်ပေးမည့် ဝန်ထမ်း (နေစားဝန်ထမ်းအပါအဝင်)တို့အတွက် ရာထူးအဆင့်အလိုက် လစာ၊လုပ်ခ ပေးချေရန်တွက်ချက် ရှင်းလင်းခြင်း**

အထက်ပါအကြောင်းအရာနှင့်ပက်သက်၍ A.A.T.M ကုမ္ပဏီ၏ အမှတ် (၂၂၈)၊ ညောင်တုန်း–ဆားမလောက်လမ်း၊ တူးချောင်းကျေးရွာ၊ ညောင်တုန်းမြို့နယ်၊ မအူပင်ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီး တွင်လုပ်ငန်းလုပ်ကိုင်မည့် စပါးခွံလောင်စာတောင့်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းတွင် အောင်ပါဝန်ထမ်းများနှင့် လစာပေးချေမှုကို လျာထားဆောင်ရွက်သွားမည်ဖြစ်ပါသည်။

| စဉ် | ရာထူး | ဦးရေ | တစ်လနှုန်းထား (ကျပ်) | တစ်နှစ်ပေးချေမှု (ကျပ်) |
|---|---|---|---|---|
| | အုပ်ချုပ်မှုဝန်ထမ်း | | | |
| ၁။ | မန်နေဂျာ | ၁ | ၄၀၀,၀၀၀ | ၄,၈၀၀,၀၀၀ |
| ၂။ | ကြီးကြပ်ရေးမှူး | ၁ | ၃၀၀,၀၀၀ | ၃,၆၀၀,၀၀၀ |
| | အခြားအဆင့် (နေစား–အမြဲတမ်း) | | တစ်ရက်နှုန်းထား (ကျပ်) | ရက်ပေါင်း၂၄၀အတွင်းပေးချေမှု (ကျပ်) |
| ၃။ | အလုပ်ကြပ် | ၂ | ၆၀၀၀ | ၂,၈၈၀,၀၀၀ |
| ၄။ | အလုပ်ကူ (နေစား) (အလုပ်ရုံ) | ၈ | ၅၀၀၀ | ၉,၆၀၀,၀၀၀ |
| ၅။ | အလုပ်ကူ (နေစား) (ကုန်ကြမ်း၊ ကုန်ချောသယ်ပို့) | ၁၀ | ၅၀၀၀ | ၁၂,၀၀၀,၀၀၀ |

သို့ဖြစ်ပါ၍ လူကြီးမင်းတို့အနေဖြင့် နိုင်ငံတော်မှပြဋ္ဌာန်းထားသော အနည်းဆုံးလုပ်ခလစာနှုန်းထားနှင့် အခြား လိုအပ်သည် များကိုစီစစ်သုံးသပ် လမ်းညွှန်ပေးပါရန် ရိုသေလေးစားစွာဖြင့် တင်ပြအပ်ပါသည်။

ဦးအောင်
အတွင်းရေးမှူး
တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ဧရာဝတီတိုင်းဒေသကြီး

U Aye Ko
Managing Director
Amazing Advanced
Transforming & Manufacturing Co., Ltd.
ဦးအေးကို
မန်နေဂျင်းဒါရိုက်တာ

မိတ္တူကို
ရုံးအဖွဲ့၊ အမေးဇင်းအက်ဗန် (ချ်)ထရန်စဖောမင်းအင် (န်) မန်နယူဖက်ချားရင်း ကုမ္ပဏီလီမိတက်

ဇယား (၁) – ထုတ်လုပ်မှုအတွက်လိုအပ်သည့်ပစ္စည်းများစာရင်း (ပြည်ပမှဝယ်)

| စဉ် | ပစ္စည်းအမျိုးအမည် | HS Code (ဂဏန်း၄လုံးဖြင့်ဖော်ပြရန်) | ရေတွက်ပုံ | အရေအတွက် | တစ်ခုချင်းတန်ဖိုး USD | စုစုပေါင်းတန်ဖိုး USD | ပင်ရင်းနိုင်ငံ | |
|---|---|---|---|---|---|---|---|---|
| | | | | | | | ပြည်တွင်း | ပြည်ပ |
| | ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ |
| 1. | PSJ506 belt conveyor | 8428330000 | ခု | ၂ | ၁၁၀၀ | ၂၂၀၀ | | ■ |
| 2. | PS508 belt conveyor | 8428330000 | ခု | ၂ | ၁၂၅၀ | ၂၅၀၀ | | ■ |
| 3. | PSJ5012 belt conveyor | 8428330000 | ခု | ၁ | ၁၉၀၀ | ၁၉၀၀ | | ■ |
| 4. | Frequency changer | 8479909090 | ခု | ၂ | ၄၀၀ | ၈၀၀ | | ■ |
| 5. | Magnet plate | 8479909090 | ခု | ၂ | ၁၂၀၀ | ၂၄၀၀ | | ■ |
| 6. | 6th XJG560 pellet machine | 84793000 | ခု | ၂ | ၂၇၆၀၀ | ၅၅၂၀၀ | | ■ |
| 7. | LQC2.5 Simple pellet cooler unit | 84198990.90 | ခု | ၁ | ၉၆၀၀ | ၉၆၀၀ | | ■ |
| 8. | Electrical control cabinet | | ခု | ၁ | ၁၀၀၀ | ၁၀၀၀ | | ■ |
| 9. | စုစုပေါင်းတန်ဖိုး | | | | | ၇၅၆၀၀ | | |

မှတ်ချက် ။ **Brand New / Reconditioned** ဖြင့်ခွဲခြားဖော်ပြပေးရန်

ရှင်းလင်းချက် ။ ။ ၁။ စက်ပစ္စည်းအသစ်များကိုသာမှာယူတပ်ဆင်သွားမည်ဖြစ်သည်။

၂။ စုစုပေါင်းကုန်ကျတန်ဖိုး မှာ (၇၅၆၀၀**USD**) ဖြစ်ပြီး (**1USD = 1300**ကျပ်)ဖြင့်တန်ဖိုးသင့်ပါက (၉၈,၂၈၀,၀၀၀–ကျပ်)ဖြစ်သည်။

# Amazing Advanced Transforming & Manufacturing Co.,Ltd

## PATအစည်းအဝေးမှ အကြံပြုချက်အပေါ် လိုက်နာဆောင်ရွက်ထားရှိသည့် အစီအစဉ်

| စဉ် | လမ်းညွှန်ချက်များ | | ဆောင်ရွက်ပြီးစီးမှု |
|---|---|---|---|
| | ဝန်ကြီး/ဌာန | လမ်းညွှန်ချက် | |
| ၁။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | • **Environmental Management Plan (EMP)** ရေးဆွဲ တင်ပြရန်၊<br>• **Carbon emission** လျှော့ချရန်၊ | • ရေးဆွဲပြီးစီး၊ ၄င်းအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားမည်။<br>• ထင်းအစားထိုးဖြစ်၍ **carbon credit** ရှိ၊ အသုံး ပြုသူများကို **carbon emission** မရှိရန် ကူညီပေးမည် |
| ၂။ | အလုပ်သမားဝန်ကြီးဌာန | • မအူပင်ခရိုင်ရုံးနှင့်ဆက်သွယ်၍အလုပ်သမား အလုပ်ရှင်စာချုပ်ချုပ်ရန်၊လူမှုဖူလုံရေးကိစ္စ ဆောင်ရွက်ရန် | • MIC ခွင့်ပြုမိန့်ရရှိပါက၊ ဆက်သွယ်ဆောင်ရွက်သွားမည်။ |
| ၃။ | စက်မှုဝန်ကြီးဌာန | • စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဌာနတွင် မှတ်ပုံတင်ရန် | • **MIC** ခွင့်ပြုမိန့်ရရှိပါက၊ ဆက်သွယ်ဆောင်ရွက်သွားမည်။ |
| ၄။ | စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန | • ကုန်သွယ်လုပ်ငန်းခွန်ကို ထုတ်လုပ်မှုတန်ဖိုး တစ်ခုလုံး၏ (၅%)ဖြင့်တွက်ချက်ရန် (ထင်းအစားထိုးလောင်စာဖြစ်၍အခွန်ကင်း လွတ်ခွင့် ရနိုင်) | • တွက်ချက်ပြီး (စုစုပေါင်းကုန်ချောရောင်းရ တန်ဖိုး ကျပ် ၅၃၇၆သိန်း ၏ ၅%)..... (၂၆၈.၈)သိန်း |

Amazing Advanced Transforming & Manufacturing Co., Ltd.
No.........
Date 26.3.18

U Aye Ko
Managing Director
Amazing Advanced
Transforming & Manufacturing Co., Ltd.

**Amazing Advanced Transforming & Manufacturing Co.,Ltd**

သို့

ဥက္ကဋ္ဌ
ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊ ထ/ရသ/၀၁မ၁၈
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မေလ၊ ၇ ရက်

**အကြောင်းအရာ ။ ။ A.A.T.M ကုမ္ပဏီ၏ စပါးခွံလောင်စာတောင့်ထုတ်လုပ်ရောင်းချမည့်လုပ်ငန်း အတွက် ဆက်လက်ဆောင်ရွက်မည်များကို တင်ပြခြင်း**

အထက်ပါအကြောင်းအရာနှင့်ပက်သက်၍ A.A.T.M ကုမ္ပဏီ၏ အမှတ် (၂၂၈)၊ ညောင်တုန်း–ဆားမလောက်လမ်း၊ တူးချောင်းကျေးရွာ၊ ညောင်တုန်းမြို့နယ်၊ မအူပင်ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီး တွင်လုပ်ငန်းလုပ်ကိုင်မည့် စပါးခွံလောင်စာတောင့်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းတွင် အောက်ပါလုပ်ငန်းစဉ်များကိုဆောင်ရွက်သွားရန် လျာထားပါသည်။

၁ ။ ခွင့်ပြုချက်ရရှိသော လုပ်ငန်းမှ ထွက်ရှိသော စပါးခွံလောင်စာများကို ပြည်တွင်းဈေးကွက်တွင် တွင်တွင်ကျယ်ကျယ် ဖြန့်ဖြူးရောင်းချသွားမည်ဖြစ်ပါသည်။
၂ ။ ပြည်ပဈေးကွက်ကို တင်ပို့ရောင်းချရန်ရည်ရွယ်ထားသော်လည်း၊ တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရင်းနှီးမြှုပ်နှံမှုကော်မတီ အစရှိသည့် အဏာပိုင်အဖွဲ့အစည်းများ၏ ခွင့်ပြုချက်တင်ပြတောင်းခံပြီး ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်သွားမည်ဖြစ်သည်။
၃ ။ လုပ်ငန်း၏ မတည်ရင်းနှီးငွေ ကျပ်သိန်းပေါင်း (၂၅၀၀) မှ လုပ်ငန်းတွင် တပ်ဆင်မည့်စက်ပစ္စည်းများကို ပြည်ပမှ ဝယ်ယူမည်ဖြစ်ရာ ခန့်မှန်းတန်ဖိုး ကျပ်သိန်းပေါင်း (၉၈၂) (USD ၇၅၆၀၀) (1USD _၁၃၀၀ကျပ်) ခန့်ကုန် ကျမည်ဖြစ်သည်။

သို့ဖြစ်ပါ၍ လူကြီးမင်းတို့အနေဖြင့် နိုင်ငံတော်မှပြဋ္ဌာန်းထားသော ဥပဒေပြဋ္ဌာန်းချက်များနှင့် အခြား လိုအပ်သည်များကိုစီစစ်သုံးသပ် လမ်းညွှန်ပေးပါရန် ရိုသေလေးစားစွာဖြင့် တင်ပြအပ်ပါသည်။

U Aye Ko
Managing Director
Amazing Advanced
Transforming & Manufacturing Co., Ltd.
ဦးအေးကို
မန်းနေဂျင်းဒါရိုက်တာ

မိတ္တူကို
- ရုံးအဖွဲ့၊ အမေးဇင်းအက်ဗန် (ချ်)ထရန်စဖောမင်းအင် (န်) မန်နယူဖက်ချားရင်း ကုမ္ပဏီလီမိတက်

# မာတိကာ

# အခန်း (၁)

## လုပ်ငန်းအစီရင်ခံစာအကျဉ်းချုပ်

### လုပ်ငန်းအမည်

စပါးခွံလောင်စာတောင့်ထုတ်လုပ်ရောင်းချခြင်းလုပ် ကိုင် မည့်လုပ်ငန်းဖြစ်ပါသည်။

### လုပ်ငန်းအဆိုပြုသူ

ယခုလုပ်ငန်းကို Amazing Advanced Transforming & Manufacturing Co.,Ltd (နောင်တွင် AATM Co.,Ltd) က အကောင်အထည်ဖော် ဆောင်ရွက် သွားမည်ဖြစ်သည်။ AATM Co.,Ltd ၏မှတ်ပုံတင်လိပ်စာ၊ အစုရှယ်ယာရှင်များနှင့် ရင်းနှီးမြှုပ်နှံမှုပမာဏကို အခန်း (၂) တွင် အသေးစိတ် ရှင်းလင်း ဖော်ပြထားပါသည်။

### လုပ်ငန်းဖော်ဆောင်ရခြင်းရည်ရွယ်ချက်

ငွေသားအမြတ်အစွန်းရရှိရေးထက်သာလွန်သော အောက်ပါအကျိုးအမြတ်များကိုရည်ရွယ်၍ လုပ်ငန်းကိုအကောင်အထည်ဖော်ဆောင်ရွက်ခြင်းဖြစ်ပါသည်။

**ရည်ရွယ်ချက် (၁)။** ။ဆန်စပါးနှင့် ဆက်စပ်ပစ္စည်း (Bio Mass) ဇီဝလောင်စာထုတ်လုပ်ခြင်းဖြင့်၊ ဧရာဝတီတိုင်းဒေသကြီးအတွင်းရှိ ဆန်စက်များမှ စွန့်ပစ်ရန်ခက်ခဲသော စပါးခွံ(ဖွဲ)များ၏အသုံးဝင်မှု၊ အသုံးချမှုမှ စွမ်းအားမြင့် ပြန်လည်ပြည့်ဖြိုးမြဲစွမ်းအင်ကို အသုံးချ၊ အသုံးပြုမှုတွင်ကျယ်လာစေရန်၊

**ရည်ရွယ်ချက် (၂)။** ။ ထင်းအစားထိုးလောင်စာကို တွင်တွင်ကျယ်ကျယ် အသုံးပြုခြင်းဖြင့် ပတ်ဝန်းကျင်ထိန်းသိမ်း သန့်ရှင်းရေးအတွက် များစွာအထောက်အကူဖြစ်စေရန်၊

**ရည်ရွယ်ချက် (၃)။** ။ တိုင်းပြည်စီးပွားရေး၊ ဧရာဝတီတိုင်း ဒေသအတွင်း ကျေးလက်နေပြည်သူများအတွက် အလုပ်အကိုင်အခွင့် အလမ်းများ များစွာဖန်တီးပေးနိုင်ရုံသာမက ပြည်တွင်းထုတ်ကုန်ကို တိုးတက်စေပြီး တိုင်းပြည်ဝင်ငွေတိုးတက်စေရန်၊

**ရည်ရွယ်ချက် (၄)။** ။ ပြည်တွင်းတွင်တည်ထောင်ဖွင့်လှစ်လုပ်ကိုင်ခြင်းဖြင့် အတတ်ပညာနှင့် အတွေ့အကြုံများ ပြည်တွင်းတွင်ပင် လေ့လာခွင့်ရရှိပြီးတိုင်းပြည်၏ လူ့စွမ်းအားအရင်းအမြစ် ဖွံ့ဖြိုးတိုးတက် စေရန်၊

**ရည်ရွယ်ချက် (၅)။** ။ ပြည်တွင်းမှထွက်ရှိသောကုန်ကြမ်းဖြင့် နိုင်ငံတကာ အဆင့်မီ အရည်သွေးမြင့် ကုန်ချောထုတ်လုပ်ပြီး ပြည်ပတွင်းသွင်းကုန်ကိုလျှော့ချရန်၊ ပြည်တွင်းသုံးစွဲမှုထက် ပိုလျှံထုတ်လုပ် နိုင်ပါက ပြည်ပသို့တင်ပို့ပြီး ပြည်ပဝင်ငွေရရှိရန်။

## လုပ်ငန်းတည်ဆောက်မည့်နေရာ

ကျွန်ုပ်တို့ကုမ္ပဏီမှ စီးပွားရေးပထမခြေလှမ်းအဖြစ်–ဦးပိုင်အမှတ် (၂၂၈)၊ ကွင်းအမှတ် (၄၀၉)၊ ညောင်တုန်း–ဆားမလောက်လမ်း၊ တူးချောင်း ကျေးရွာ၊ ညောင်တုန်း မြို့နယ်၊ မအူပင် ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီး ပေါ်တွင် လုပ်ငန်းတည်ဆောက်၍ စွန့်ပစ်စပါးခွံမှ ထင်းအစားအဖြစ်သော်လည်းကောင်း အခြားကာဗွန်အခြေပြု လောင်စာများ နေရာတွင်အစားထိုးနိုင်သော ပြန်လည်ပြည့်ဖြိုးမြဲစွမ်းအင် အရင်းအမြစ်တစ်ခုဖြစ်သော လောင်စာတောင့် ကို နိုင်ငံတကာ အဆင့်မီထုတ်လုပ်သွားမည် ဖြစ်သည်။ တည်ဆောက်မည့်မြေနေရာ၏ ကောင်းကင်ပုံ၊ မြေပြင်ကွင်း ဆင်းရိုက်ယူထားသောပုံများ၊ လက်ရှိမြေယာနှင့်ပက်သက်သောအထောက်အထားမှတ်တမ်းပုံများကို အောက်တွင် ရှင်းလင်းတင်ပြထားပါသည်။ မြေယာအမျိုးအစားမှာ လက်ရှိလယ်မြေအမျိုးအစားဖြစ်ပြီး၊ ကုမ္ပဏီမှ ၎င်းမြေယာကို လက်ရှိလုပ်ကိုင်နေ၊ မြေစာရင်းတွင် အမည်ပေါက်သူထံမှ ကာလပေါက်ဈေးပေး၍ တရားဝင်ဝယ်ယူ ပိုင်ဆိုင်ထားပါသည် (၎င်းစိတ်ရှင်လန်း ဝမ်းမြောက်သော စိတ်အခြေအနေတွင်၊ ဂုဏ်သိက္ခာရှိလူကြီးများ ရှေ့မှောက်တွင်၊ မလျှော်ဩဇာတစ်စုံတစ်ရာပါဝင်ခြင်းမရှိ)။ မြေယာပိုင်ဆိုင်မှု အထောက်အထားနှင့် စာချုပ်စာတမ်းမိတ္တူများကို ပူးတွဲ (၁–၃) ဖြင့်တင်ပြထားပါသည်။




ပုံ (၁–၁) အလုပ်ရုံတည်ဆောက်မည့်မြေနေရာပြကောင်းကင်ပုံ
Source: Google earth




ပုံ (၁–၂) အလုပ်ရုံတည်ဆောက်မည့်မြေနေရာပြပုံ

Source: AATM




ပုံ (၁–၃) အလုပ်ရုံတည်ဆောက်မည့်မြေနေရာကို ကွင်းဆင်းရိုက်ကူးထားပုံ
Source: AATM

## လုပ်ကိုင်ဆောင်ရွက်မည့်ပုံစံ

ယခုလုပ်ငန်းကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း အသေးစားနှင့် အလတ်စားစီးပွားရေး လုပ်ငန်း (SME) အနေဖြင့် ဆောင်ရွက်လုပ်ကိုင်သွားမည်ဖြစ်ပါသည်။ ချမှတ်ထားသောစည်းကမ်းများကိုလည်း တိကျစွာ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။

## ကုန်ကြမ်းအကြောင်းရှင်းလင်းချက်

ကုန်ကြမ်းအဖြစ် စွန့်ပစ် စပါးခွံများကိုအသုံးပြုသွားမည်ဖြစ်သည်။ ပုံမှန်အားဖြင့် ဆန်စက်များမှ ဆန်ကြိတ်ဖွတ်ပြီး ဘေးထွက်ပစ္စည်း အဖြစ် စပါးခွံများကိုရရှိသည်။ ယင်းစပါးခွံများစွန့်ပစ်ရေးမှာ ဆန်စက်များအတွက် အကြီးမားဆုံးသောစိန်ခေါ်မှုတစ်ခုဖြစ်သည်။ အချို့ကို မြစ်အတွင်း၊ ချောင်းအတွင်းသို့တိုက်ရိုက်စွန့်ပစ်ကြသည်။ အချို့က မြေပြင်တွင် ပုံထားကြသည်။ ယင်းသို့ပုံထားချိန်တွင် မိုးရွာသွန်းသောအခါ၊ လေတိုက်သောအခါ တွင်လည်း မြစ်၊ ချောင်းများအတွင်းသို့ သွယ်ဝိုက်ရောက်ရှိပါသည်။ မြစ်၊ချောင်းများ တိမ်ကောလာပြီး၊ ရေကြီးရေလျှံမှုအပြင် ရေထုညစ်ညမ်းခြင်းတို့ကို အဓိကဆိုးကျိုးသက်ရောက်စေပါသည်။ အချို့ကို မီးရှို့ဖျက်ဆီးပြစ်ကြသည်။ လေထုညစ်ညမ်းစေပြီး၊ ပတ်ဝန်းကျင်နေထိုင်သူများကို အသက်ရှူလမ်းကြောင်းနှင့် ပက်သက်သောရောဂါများဖြစ်ပွား စေပြီး၊ ရာသီဥတုဖောက်ပြန်ပြောင်းလဲခြင်း၊ ရေကြီးရေလျှံခြင်း စသည့် သဘာဝဘေးအန္တရာယ်များ ဖြစ်ပွားစေပါသည်။ လက်ရှိအနေဖြင့်လည်း နှစ်စဉ်နှစ်တိုင်း အထက်ပါ သဘာဝဘေးအန္တရာယ်များ ကိုခံစားနေရပြီး တိုင်းပြည်၏ ထုတ်လုပ်မှုကို များစွာထိခိုက်သည့် အပြင်၊ အခြားအခြားသော စိတ်ခံစားမှုဆိုးကျိုးများကို ဧရာဝတီတိုင်းဒေသကြီးအနေဖြင့်ဆိုးရွားစွာ ခံစားနေရပါသည်။ စပါးခွံကုန်းကြမ်းကိုအောက်ပါပုံတွင် လေ့လာကြည့်ရှုနိုင်သည်။



ပုံ (၁–၄) စပါးခွံကို အနီးကပ်တွေ့မြင်ရပုံ
Source: AATM



ပုံ (၁–၅) စပါးခွံများစုပုံထားပုံ
Source: AATM

## ကုန်ချောအကြောင်းရှင်းလင်းချက်

စပါးခွံများကိုစက်အတွင်း ရုပ်အသွင်အခြေပြောင်းခြင်းဖြင့် စပါးခွံလောင်စာတောင့်ကိုရရှိသည်။ ယင်းတို့ကို လောင်ကျွမ်းစေခြင်းဖြင့် အပူစွမ်းအင်ကိုရရှိစေသည်။ အပူသည် အဖိုးတန်သောစွမ်းအင် အရင်းမြစ်တစ်ခုဖြစ်သည်။ ယင်းအပူစွမ်းအင်မှ လျှပ်စစ်စွမ်းအင် အဖြစ်သော်လည်း ကောင်း၊ အခြားသောစက်မှုစွမ်းအင် အဖြစ်သော်လည်းကောင်း အသွင်ပြောင်းလဲနိုင်သည်။ အခြားခြားသော စက်မှုလုပ်ငန်းများအတွက် စွမ်းအင်အရင်းမြစ် တစ်ခုဖြစ်သည်။ ယခုအချိန်ထိ တစ်ချို့စက်မှုလုပ်ငန်းများတွင် အပူစွမ်းအင်ရရှိရန် ထင်းကို များစွာအသုံးပြုကြသည်။ စပါးခွံလောင်စာတောင့်ကို လုံလုံလောက်လောက်ပေါပေါများများ ထုတ်လုပ်နိုင်ပါက ထင်းအစားထိုးလောင်စာအဖြစ်တွင်ကျယ်စွာ အသုံးပြုနိုင်မည်ဖြစ်ပြီး သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်းကိုပါ ဆောင်ရွက်နိုင်မည်ဖြစ်သည်။

ကုန်ချောအဖြစ်ရရှိသော စပါးခွံလောင်စာတောင့်သည် ပြန်ပြည့်ဖြိုးမြဲစွမ်းအင်အမျိုးအစားဖြစ်ပြီး၊ ဇီဝလောင်စာတစ်မျိုးဖြစ်သည်။ အခြားဇီဝလောင်စာများဖြစ်သော bio-ethanol တို့သည် ကုန်ကြမ်းအဖြစ် ကြံ (ဘရာဇီးနိုင်ငံ တွင်တွင်ကျယ်စွာ အသုံးပြု) နှင့် ပြောင်းဖူး (အမေရိကန်နိုင်ငံတွင် တွင်ကျယ်စွာ အသုံးပြု) ကို အသုံးပြုကြသည်။ ယင်းနိုင်ငံများတွင် လောင်စာများကိုထုတ်လုပ်ရန်အတွက် လူသားတို့စားသုံးခြင်းတို့ကို လျော့ချခြင်း၊ လုံးဝစွန့်လွှတ်ရခြင်းမျိုးဆောင်ရွက်ရသည်။ ယခုကုန်ချောဖြစ်သော စပါးခွံလောင်စာတောင့်သည် အထက်ပါ ကဲ့သို့ စားသုံးခြင်းကိုလျှော့ချရန်လည်းမလို၊ စွန့်လွှတ်ရန်လည်းမလိုအပ်ပေ။ စွန့်ပစ်အမှိုက်မှ အဖိုးတန် စွမ်းအင်ထုတ်ယူနိုင်သောများစွာကောင်းကျိုးပေးသော ကုန်ချောထုတ်လုပ်မှုမျိုးဖြစ်ပါသည်။

စပါးခွံလောင်စာတောင့်ပုံစံများနှင့် အစားထိုးအသုံးပြုနိုင်သောနေရာများကို ပုံများဖြင့်ရှင်းလင်းတင်ပြထားပါသည်။



ပုံ (၁–၆) ထုတ်လုပ်မည့် စပါးခွံလောင်စာတောင့်
Source: AATM



ပုံ (၁–၈) စပါးခွံ (ကုန်ကြမ်း) နှင့် စပါးခွံလောင်စာတောင့် (ကုန်ချော) အနီးကပ်ယှဉ်တွဲပြပုံ
Source: internet




ပုံ (၁-၉) စပါးခွံလောင်စာတောင့် အသုံးပြုနိုင်သောစက်မှုလုပ်ငန်းများ
Source: AATM

**လုပ်ငန်းပုံစံ**

အထက်တွင်ဖော်ပြထားသော မြေ(၂)ဧက ပေါ်တွင် လုပ်ငန်းအတွက် စက်ပစ္စည်းများ၊ ဆက်စပ်ပစ္စည်းများ၊ ကုန်ကြမ်း၊ ကုန်ချောတို့ကို လုံလောက်စွာ ထားရှိလုပ်ကိုင်နိုင်ရန် (အလျား ၈၀ ပေ၊ အနံ ၄၀ ပေ၊ အမြင့် ၃၀ ပေ) အကျယ်အဝန်းဖြင့်ဆောက်လုပ်မည်ဖြစ်သည်။

လိုင်စင်ရ အင်ဂျင်နီယာဖြင့် ပုံစံထုတ်ထားခြင်းဖြစ်ပြီး ပုံစံအသေးစိတ်ပုံများကို ပူးတွဲ (၁-၄) တွင်လုပ်ငန်းအတွက် တင်ပြထားသည်။

**လုပ်ငန်းတွင်တပ်ဆင်မည့်စက်ပစ္စည်းများ**

လုပ်ငန်းတင်တပ်ဆင်သွားမည့်ဆက်စပ်ပစ္စည်းများမှာ

- Biomass pellet machine (2ton/hr) 2 Line တပ်ဆင်ခြင်း
- PSJ506 belt conveyor
- PS508 belt conveyor
- PSJ5012 belt conveyor
- Frequency changer
- Magnet plate

- 6th XJG560 pellet machine
- LQC2.5 Simple pellet cooler unit
- Electrical control cabinet တို့ဖြစ်သည်။

အထက်ပါစက်များကောင်းစွာလည်ပတ်ရန် လျှပ်စစ်စွမ်းအင်ကို အသုံးပြုမည်။ လိုအပ်သော လျှပ်စစ်စွမ်းအင်အတွက် ညောင်တုန်းမြို့နယ်ရှိ မြန်မာလျှပ်စစ်ဓာတ်အားမှ ရယူသုံးစွဲသွားမည်။ လုံလောက်သော လျှပ်စစ်ဓာတ်အားနှင့် ဖိအားရရှိရန်– အတွက် 500 KVA (သို့) 315 KVA Transformer (၁) လုံးကို တပ်ဆင်သုံးစွဲသွား မည်။

လုပ်ငန်းတွင်တပ်တင်လည်ပတ်မည့် စက်ပစ္စည်းများကို အရည်အသွေးမြင့်စက်ပစ္စည်းများကို ဝယ်ယူ တပ်ဆင်သွားမည်။ ပြည်တွင်းရှိ အရည်သွေးမီ ပစ္စည်းများကိုဦးစားပေး ရွေးချယ်သွားမည်။ တပ်ဆင်မည့်စက်ပစ္စည်းများနှင့် ဆက်စပ်အသုံးပြုမည့် ပစ္စည်းများ၏ပုံများကို အောက်တွင် ဖော်ပြထားသည်။

လက်ရှိ ပြည်ပမှဝယ်ယူရန်လျာထားသော စပါးခွံလောင်စာတောင့်ထုတ်လုပ်သည့်စက်နှင့်ပက်သက်ပြီး ထုတ်လုပ်သူမှ စက်ပစ္စည်းစွမ်းဆောင်ရည်၊ ဆက်စပ်ပစ္စည်းများနှင့် ကုန်ကျတန်ဖိုးကို တွက်ချက်ဖော်ပြထားသည့် ထုတ်လုပ်သူအညွှန်းရှင်းလင်းချက် (producer's catalogue)ကို ပူးတွဲ (၁–၅) ဖြင့် တင်ပြထားသည်။




ပုံ (၁–၁၀) စပါးခွံလောင်စာတောင့်ထုတ်လုပ်သည့်စက် (ပြည်ပမှမှာယူ)
Source: AATM



ပုံ (၁–၁၁) စပါးခွံလောင်စာတောင့်ထုတ်လုပ်သည့်စက် (ပြည်ပမှမှာယူ)
Source: AATM

## တပ်ဆင်ပစ္စည်းများ၏ ကုန်ကျစရိတ်၊ တစ်နှစ်အတွင်းကုန်ထုတ်လုပ်နိုင်မှုပမာဏ

လုပ်ငန်းတွင်တပ်ဆင်မည့် စက်ပစ္စည်းများ၊ ဆက်စပ်ပစ္စည်းများ၊ အခြားလိုအပ်သော အထောက်အကူပြု ပစ္စည်းများတို့၏ ကုန်ကျစရိတ်၊ ရင်းနှီးမြှုပ်နှံမှုတန်ဖိုးကို အခန်း (၅) (ရင်းနှီးမြှုပ်နှံမှုနှင့် စက်ပစ္စည်းဝယ်ယူတပ်ဆင်ခြင်း) တွင်အသေး စိတ်တွက်ချက်ပြထားသည်။ တစ်နှစ်အတွင်းထုတ်လုပ်မည့် ကုန်ချောပမာဏ၊ ကုန်ကြမ်းရယူခြင်းများအတွက် ကုန်ကျစရိတ်များ၊ လုပ်ငန်း လည်ပတ်စရိတ်၊ ဝန်ထမ်းစရိတ်၊ အရောင်းမြင့်တင်ခြင်း အတွက် လျားထားစရိတ်၊ တစ်နှစ်အတွင်းရရှိမည့် မှန်းဆအမြတ်တန်ဖိုးကို အခန်း (၆) (ကုန်ကြမ်းရရှိမှု၊ ထုတ်လုပ်မှုကုန်ကျစရိတ်)တွင် ရှင်းလင်းတင်ပြထားသည်။

## လုပ်ငန်းအတွက်အထောက်အကူပြုအလုပ်ရုံတည်ဆောက်ခြင်း

လုပ်ငန်းတည်ဆောက်ခြင်းအတွက် မြေယာပြုပြင်ခြင်း၊ တည်ဆောက်ရေးလုပ်ငန်းများ၊ စက်ပစ္စည်းများတပ်ဆင်ခြင်း၊ ဆက်စပ်ပစ္စည်းများတပ်ဆင်ခြင်း၊ လျှပ်စစ်မီးကြိုးသွယ်တန်းခြင်း စသည်အလုပ်တို့အတွက် လုပ်ငန်းဒါရိုက်တာ ဦးမောင်မောင်တင်ကိုယ်တိုင် ကြီးကြပ်၍ ကျွမ်းကျင်ပညာရှင်များဖြင့်သော်လည်းကောင်း၊ ကျွမ်းကျင် ပညာရှင်များဖြင့် ဖွဲ့စည်းထားသော အဖွဲ့အစည်းသို့ ကန်ထရိုက်တာအဖြစ်ရွေးချယ်တာဝန်ပေးအပ်ဆောင်ရွက် စေမည်ဖြစ်သည်။ ဤသို့အကောင်အထည် ဖော်ဆောင်ရွက်ရာတွင် (မလွှဲရှောင်သာသည့် အခြေအနေမှလွဲ၍) ဒေသခံများကို ဦးစားပေးဆောင်ရွက်စေမည်ဖြစ် သည်။ ဝန်ထမ်းခန့်အပ် တာဝန်ပေးအပ်မှုစာရင်းကို လိုအပ်ပါက လုပ်ငန်းမဆောင်ရွက်မီ (၁)လ ကြိုတင်၍ တင်ပြသွားပါမည်။

## စီမံဆောင်ရွက်မည့်လုပ်ငန်းအတွက်ဝန်းထမ်းဖွဲ့စည်းပုံ

ယခုလုပ်ငန်းအတွက် လျာထားသော ခန့်အပ်တာဝန်ပေးမည်ဝန်ထမ်းလိုအပ်ချက်ကို ပုံ (၁–၁၂) ဖြင့် အောက်တွင်ဖော်ပြ ရှင်းလင်းထားပါသည်။ အမြဲတမ်းဝန်ထမ်း (၁၂)ဦး၊ နေ့စားလုပ်သား (၁၀)ဦး၊ ဖြင့် စုစုပေါင်း (၂၂) ဦးခန့်ထားဆောင် ရွက်သွားမည်။ ဧရာဝတီတိုင်းဒေကြီးနှင့် ညောင်တုန်းမြို့နယ် ဖွံ့ဖြိုးတိုးတက်ရေးကို ဦးတည်သော လုပ်ငန်းဖြစ်သည့် အတွက် ဒေသခံလူထုကို လေ့ကျင်ပညာပေး တာဝန်ထမ်းဆောင်စေမည် ဖြစ်ပါသည်။ ဝန်းထမ်းများ နှင့်အလုပ်သမားများ၏လစာပေးနှုန်းနှင့် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်မည့်နှစ်များမှ ခန်းမှန်း (၁၀)နှစ်စာ ကို အခန်း (၆) ကုန်ကြမ်းတန်ဖိုး၊ ထုတ်လုပ်မှုကုန်ကျစရိတ် နှင့် အသားတင်အမြတ် ရှင်းလင်း တင်ပြခြင်းတွက်ချက်တင်ပြထားပါသည်။




ပုံ (၁–၁၂) လုပ်ငန်းစီမံအုပ်ချုပ်မှုနှင့်လုပ်ငန်းလည်ပတ်ရန်အတွက် လျာထားဝန်ထမ်းအင်အား
Source: AATM

## နိဂုံးချုပ်

စွန့်ပစ်စပါးခွံမှ ထင်းအစားထိုးစပါးခွံလောင်စာတောင့်ထုတ်လုပ်ခြင်းအတွက် လုပ်ငန်းတည်ဆောက်ခြင်းသည် AATM ကုမ္ပဏီ၏ကနဦးအဆင့်သာဖြစ်ပြီး၊ နောက်ထပ်လုပ်ငန်းများကို ထပ်မံတည်ဆောက်သွားမည်။ ကုမ္ပဏီ၏ မတည်ရင်းနှီး ငွေ၊ ဒါရိုက်တာအဖွဲ့ဝင်များနှင့် ကုမ္ပဏီ၏ ရည်ရွယ်ချက်များကို အခန်း (၂) တွင်ဆက်လက် ရှင်းလင်းသွားပါမည်။

# အခန်း (၂)

## ကုမ္ပဏီအကြောင်းရှင်းလင်းတင်ပြခြင်း

### မိတ်ဆက်

ယခု လုပ်ငန်းလုပ်ကိုင်ရန် အဆိုပြုထားသော စပါးခွံလောင်စာတောင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံတကာ အတွေ့အကြုံရှိ မြန်မာတိုင်းရင်းသား ပညာရှင်အင်ဂျင်နီယာများဖြင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်တွင်မှတ်ပုံတင် ထားသော Amazing Advanced Transforming & Manufacturing Co., Ltd ကုမ္ပဏီမှ အမြန်ဆုံးအကောင်အထည်ဖော် ဆောင်ရွက် သွားမည်ဖြစ်သည်။

### ကုမ္ပဏီခွင့်ပြုမတည်ရင်းနှီးပမာဏ

AATM အနေကို စိတ်တူကိုယ်တူ အစုရှယ်ယာရှင် (၅)ဦးက သတ်မှတ်မတည်ငွေ သန်း (၅၀၀၀)ဖြင့် တည်ထောင်ထားပါသည်။ ကနဦးမတည်ငွေ သိန်း (၂၅၀၀) ဖြင့်လုပ်ငန်း စတင်ဆောင်ရွက်မည် ဖြစ်သည်။ လုပ်ငန်းစီမံချက်အရ လုပ်ငန်းတိုးချဲ့ဆောင်ရွက် ခြင်းများအတွက် လိုအပ်ပါက ရင်းနှီးငွေကို မတည်ရင်းနှီးငွေအထိ ပြည့်မီအောင် ထည့်ဝင်၍လုပ်ငန်း ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ အစုရှယ်ယာရှင်အမည်များ၊ အမျိုးသားမှတ်ပုံတင်အမှတ်၊ နေရပ်လိပ်စာနှင့် ရင်းနှီးမြှုပ်နှံမှုအချိုးပမာဏကို ဇယား (၁–၁)တွင် ဖော်ပြထားပါသည်။

ဇယား (၁–၁) အစုရှယ်ယာရှင်များ

| စဉ် | အမည် | အမျိုးသားမှတ်ပုံတင်အမှတ် | နေရပ်လိပ်စာ၊ ဆက်သွယ်ရန်ဖုန်းအမှတ် | အစုပါဝင်မှုအချိုး |
|---|---|---|---|---|
| ၁ | ဦးအေးကို | ၁၂/ဥကမ (နိုင်)၀၆၁၇၇၄ | အခန်း (၇၀၈)၊အဆောက်အဦး (C)၊ပုလဲကွန်ဒို၊ကမ္ဘာအေးဘုရားလမ်း၊ ဆရာစံရပ်ကွက်၊ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။ ဖုန်းအမှတ်–၀၉၇၉၁၆၀၆၈၁၆၊ ၀၉၅၁၈၁၄၆၈ | ၁၄ % |
| ၂ | ဦးမောင်မောင်တင် | ၁၂/မရက (နိုင်)၀၃၂၂၅၇ | အမှတ် (၂၀–က)၊မေလိခလမ်း၊မရမ်းကုန်းမြို့နယ်၊ရန်ကုန်မြို့။ ဖုန်းအမှတ်–၀၉၅၀၇၁၁၄၈ | ၁၄ % |
| ၃ | ဦးအောင်ဇော်လင်း | ၁၄/ပသန (နိုင်)၀၁၅၀၀၆ | အမှတ် (၃၀)၊ဖြလွှာ၊မအူပင်လမ်း၊စမ်းချောင်းမြို့နယ်၊ရန်ကုန်မြို့။ ဖုန်းအမှတ်–၀၉၅၁၃၆၈၁၄ | ၁၄ % |
| ၄ | ဦးတေဇာမြင့် | ၁၂/ဗဟန (နိုင်)၀၅၄၀၃၆ | အခန်း (၅၁)၊ အဆောက်အဦး (၈/၅)၊ ရန်အေးအိမ်ယာ၊ ရန်ကင်းမြို့ နယ်၊ ရန်ကုန်မြို့။ ဖုန်းအမှတ်–၀၉၂၅၄၀၄၅၇၅၉ | ၇ % |
| ၅ | ဦးတင်ဦး | ၁၂/လမတ (နိုင်)၀၂၁၄၅၁ | အမှတ် (၄၂–ခ)၊အင်းယားလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ ဖုန်းအမှတ်–၀၉၅၁၀၈၉၄၂ | ၅၁ % |

### တည်နေရာ

AATM ကုမ္ပဏီရုံးချုပ်ကို လုပ်ငန်းတည်ထောင်မည့် အမှတ်(၂၈)၊ ညောင်တုန်း–ဆားမလောက်လမ်း၊ တူးချောင်းကျေးရွာ၊ ညောင်တုန်းမြို့နယ်၊ မအူပင်ခရိုင် တွင်တည်ထောင်ဖွင့်လှစ်ထားပါသည်။ ရုံးခွဲအနေဖြင့် ဧရာဝတီတိုင်း အတွင်းရှိမြို့များတွင် ဖွင့်လှစ်သွားမည်။ ကုမ္ပဏီ၏ စီးပွားရေး ရေရှည် အစီမံများအရ အလုပ်ရုံများကို

ဧရာဝတီတိုင်း ဒေသကြီးတွင် တိုးချဲ့ဖွင့်လှစ်သွားမည်ဖြစ်ပြီး ရုံးခွဲများကို လည်းထပ်မံဖွင့်လှစ်သွားရန် စီမံထား ပါသည်။

**စီမံအုပ်ချုပ်မှု**

ကုမ္ပဏီကိုအစုရှယ်ယာရှင်များပါဝင်သော ဒါရိုက်တာအဖွဲ့ဖြင့် စီမံအုပ်ချုပ်ပြီး ဒါရိုက်တာအဖွဲ့ကိုယ်စား ဦးအေးကို က စီမံအုပ်ချုပ်မှုဒါရိုက်တာအဖြစ် ဦးဆောင်စီမံအုပ်ချုပ် သွားမည်ဖြစ်ပါသည်။
ယခုလုပ်ငန်း အတွက် လုပ်ငန်းတာဝန်များကို ထိထိရောက်ရောက်သွက်သွက်လက်လက်ဆောင်ရွက်ရန်အလို့ငှာ ဒါရိုက်တာအဖွဲ့ဝင်တစ်ဦးဖြစ်သော ဦးမောင်မောင်တင်က လုပ်ငန်းဒါရိုက်တာအဖြစ် ဦးဆောင်၍ ကိုယ်စားလှယ်များ၊ တာဝန်ခံများကို ရွေးချယ်ခန့်အပ်၍ ကြပ်ကြပ်မတ်မတ် အကောင်အထည်ဖော်ဆောင်ရွက် သွားမည်။

**ရှင်းလင်းချက် ။ ။**

လုပ်ငန်းကို ဦးဆောင်ရင်းနှီးမြှုပ်နှံဆောင်ရွက်မည့် AATM ကုမ္ပဏီ၏ ဦးတည်ချက်၊ ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်အတွင်း ပြဋ္ဌာန်းထား ဥပဒေများနှင့် အညီ တရားဝင် ဖွဲ့စည်းခွင့် ရရှိထားသော ခွင့်ပြုမိန့်၊ သင်းဖွဲ့မှတ် တမ်းနှင့် သင်းဖွဲ့ စည်းမျဉ်းတို့ကို အသေးစိတ်လေလာ ကြည့်ရှု စစ်ဆေးနိုင်ရန် မိတ္တူကို ပူးတွဲ (၁-၁) ဖြင့်တင်ပြထားပါသည်။

# အခန်း (၃)

## စီးပွားရေးအစီအစဉ်များ

### မိတ်ဆက်

ယခု အဆိုပြု စပါးခွံလောင်စာတောင့်ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းကို အတွက် လိုအပ်သောစက်ပစ္စည်းများကို စောလျှင်စွာဝယ်ယူတပ်ဆင်သွားမည်ဖြစ်ပြီး၊ လုပ်ငန်းလိုအပ်ချက်နှင့် ဈေးကွက်ရရှိမှုအပေါ်မူတည်၍ ဧရာဝတီတိုင်း တစ်ခုလုံးတွင် လွှမ်းခြုံတည်ဆောက်သွားရန် ရည်ရွယ်ထားပါသည်။

### လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်မည့်နေရာ

ယခုလုပ်ငန်းကို – ဦးပိုင်အမှတ် (၂၂၈)၊ ကွင်းအမှတ် (၄၀၉)၊ ညောင်တုန်း–ဆားမလောက်လမ်း၊ တူးချောင်း ကျေးရွာ၊ ညောင်တုန်းမြို့နယ်၊ မအူပင်ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီးတွင် တည်ဆောက်သွားမည်ဖြစ် သည်။

### တည်ဆောက်တပ်ဆင်သွားမည့်စက်ပစ္စည်းများ

ဆောက်လုပ်ရေးအလုပ်များတည်ဆောက်ပြီးသွားပါက ထုတ်လုပ်ရန်အတွက် အောက်ပါစက်ပစ္စည်းများဖြင့်တပ်ဆင် လည်ပတ်သွားမည်ဖြစ်ပါသည်။

- Biomass pellet machine (2ton/hr) 2 Line တပ်ဆင်ခြင်း
- PSJ506 belt conveyor
- PS508 belt conveyor
- PSJ5012 belt conveyor
- Frequency changer
- Magnet plate
- 6th XJG560 pellet machine
- LQC2.5 Simple pellet cooler unit
- Electrical control cabinet တို့ဖြစ်သည်။

## ထပ်မံတိုးချဲ့သွားမည့်စီးပွားရေးအစီမံများ

ဧရာဝတီတိုင်းဒေသကြီးသည် မြန်မာနိုင်ငံ၏ ဆန်အိုးကြီး တနည်းအားဖြင့် စပါးကျီဟုတင်စားရ လောက်အောင် ဆန်စပါးအများဆုံးစိုက်ပျိုးသော ဒေသဖြစ်သည်။ ဆန်စပါးထုတ်လုပ်မှုသည် ဧရာဝတီတိုင်း ဒေသကြီး၏ ပင်မစီးပွားရေးလုပ်ငန်းဖြစ်သည်။ ဆန်စက်များအများပြားတည်ရှိပြီး စပါးခွံမှာလည်း ဘေးထွက်ပစ္စည်း အဖြစ် အများအပြားထွက်ရှိပြီး ၎င်းစပါးခွံများ စွန့်ပစ်ရန်နေရာမှာ စိန်ခေါ်မှုတစ်ခုအဖြစ်ရပ်တည်လျှက် ရှိသည်။ ကျွန်ုပ်တို့ AATM ကုမ္ပဏီအနေဖြင့် တိုင်းဒေသကြီးဖွံ့ဖြိုးတိုးတက်ရေးကို အစဉ်ကြိုးစားအားထုတ် သွားမည်ဟု စီမံထားသည်နှင့် အညီ အထက်ပါ အခက်အခဲများလည်း ပြေလည်၊ သဘာဝပတ်ဝန်းကျင်လည်း ထိခိုက်မှု လုံးဝမရှိသလောက် နည်းပါးသော၊ ပြန်လည်ပြည့်ဖြိုးမြဲစွမ်းအင်တစ်မျိုးဖြစ်သော ထင်းအစားထိုး လောင်စာအဖြစ် ယခုလို လုပ်ငန်းများကို တိုင်းဒေသကြီးအစိုးရအဖွဲ့၏ အားပေးကူညီမှုများဖြင့် ဆက်လက် တည်ဆောက် လည်ပတ်သွားမည်ဖြစ်ပါသည်။

AATM ကုမ္ပဏီအနေဖြင့် အောက်ပါအစီအစဉ်အတိုင်း လုပ်ငန်းလည်ပတ်ဆောင်ရွက်သွားရန် လျာထားသည်။

| စဉ် | လုပ်ငန်းစဉ် | နေရာ | စတင်မည့်ခုနှစ် |
|---|---|---|---|
| ၁ | လုပ်ငန်း (၁) | ညောင်တုန်းမြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီး | ၂၀၁၈ |
| ၂ | လုပ်ငန်း (၂) | မြောင်းမြမြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီး | ၂၀၁၉ |
| ၃ | လုပ်ငန်း (၃) | ဒေးဒရဲမြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီး | ၂၀၂၀ |
| ၄ | လုပ်ငန်း (၄) | ကန်ကြီးထောင့်မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီး | ၂၀၂၁ |

ယခုစတင်သောလုပ်ငန်းသည် လုပ်ငန်းစတင်ဆောင်ရွက်ခြင်းသာဖြစ်ပြီး၊ ဒါရိုက်တာအဖွဲ့ဝင်များအနေဖြင့် ယခု လုပ်ငန်းမျိုးသည်ငွေကြေးအကျိုးအမြတ်ထက်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် အခြားကောင်းကျိုးအဖြာဖြာ သယ်ဆောင်မည်ဟု စွဲမြဲစွာယုံကြည် သည့် အားလျော်စွာ လုပ်ငန်းစဉ် လုပ်ငန်းအဆင့်အတိုင်း၊ နှစ်အလိုက် အကောင်အထည်ဖော်ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

## ဈေးကွက်ရရှိရေးအတွက်အစီအစဉ်များ

ထုတ်လုပ်သောလောင်စာများကို ထင်းအစားထိုးအဖြစ် သုံးစွဲနိုင်ရေး၊ ဈေးကွက်ဝေစုကျယ်ကျယ်ပြန့်ပြန့် ရရှိခြင်း တို့သည် စီးပွားရေးလုပ်ငန်း ရေရှည်ရပ်တည်နိုင်ရေးအတွက် များစွာအရေးပါသည်ကို ကျွန်ုပ်တို့ကောင်းစွာနားလည် ထားပါသည်။ ဈေးကွက်ကျယ်ကျယ်ပြန့်ပြန့်ရရှိနိုင်ရေးအတွက် အောက်ပါအစီအစဉ်များကို ရေးဆွဲပြီးဆောင်ရွက် သွားမည်ဖြစ်သည်။

### (၁) သုတေသနဆက်လက်ပြုစုခြင်း

ယခုလောင်စာတောင့်သည် ထင်းအစားထိုးဖြင့် မဖြစ်မနေလိုအပ်လျက်ရှိသည်။ ကျွန်ုပ်တို့အနေဖြင့် သုံးစွဲသူများ အဆင်ပြေမှုရှိစေရန် သုံးစွဲသူများလက်ရှိသုံးစွဲနေသော မီးဖိုပုံစံပြင်ဆင်ခြင်း၊ လောင်စာ မီးလောင်အား ကောင်းမွန်

စေရန်လက်ရှိရောစပ်အချိုးအစားပြင် ထပ်မံမွမ်းမံရမည်များအတွက် သုတေသနပြုစုသူများအား ဖိတ်ခေါ်၍ စာတမ်း ပြုစုဖတ်ကြားစေခြင်း၊ ၎င်းတို့အားထောက်ပံ့ပေးခြင်း။

## (၂) ဈေးကွက်ဖန်တီးခြင်း

ဈေးကွက်ကျွမ်းကျင်သူများအား ဖိတ်ခေါ်၍ ပိုမိုကျယ်ပြန့်သော ဈေးကွက်ဖန်တီးနိုင်ရေးအတွက် အားထုတ်ကြိုးပမ်းခြင်း။ အရောင်းမြှင့်တင်ရေးအဖွဲ့ထားရှိ၍ သုံးစွဲမှုကျယ်ပြန့်စေရန် ဆောင်ရွက်စေခြင်း၊ ကွင်းဆင်းလေ့လာ မှတ်တမ်းတင်စေခြင်း။ ရရှိသော သတင်းအချက်အလက်များကို အုပ်ချုပ်သူအဖွဲ့၊ စက်မှုကျွမ်းကျင်အဖွဲ့တို့နှင့် ပူးပေါင်း ဆွေးနွေးအဖြေရှာစေခြင်း။ လိုအပ်ပါက ပြင်ဆင်သင့်သည်များကို အချိန်မီပြင်ဆင်ခြင်းတို့ကို အချိန်နှင့် တပြေးညီဆောင်ရွက်သွားမည်ဖြစ်သည်။

## (၃) ပြည်ပဈေးကွက်ရရှိရေးအတွက် ကြိုးပမ်းခြင်း

ကျွန်ုပ်တို့ AATM ကုမ္ပဏီအနေဖြင့် ယခုလောင်စာကုန်ချောကို ပြည်တွင်းပိုလျှံ၍မှမက ပြည်ပဈေးကွက်ရရှိရေးပါ ဦးတည် ကြိုးပမ်းဆောင်ရွက်သွားမည်ဖြစ်သည်။ ထိုသို့ရရှိရေးအတွက် ပြည်ပနိုင်ငံများ၏ လက်ရှိလောင်စာသုံးစွဲမှုပုံစံ၊ နောင်ပြောင်းလဲသုံးစွဲမည့်နည်းပညာတို့ကို အစဉ်မပြတ်စောင့်ကြည့်လေ့လာ ပြင်ဆင်သွားမည်ဖြစ်ပါသည်။

## ရှင်းလင်းချက်

လုပ်ငန်းကို ဦးဆောင်ရင်းနှီးမြှုပ်နှံဆောင်ရွက်မည့် AATM ကုမ္ပဏီသည် ယခုညောင်တုန်းမြို့နယ်တွင် အကောင်အထည်ဖော်ဆောင်ရွက်သွားမည့်လုပ်ငန်းသည် ကနဦးအဆင့်သာဖြစ်ပြီး ထပ်မံ၍လည်းအထက်ပါ အစီအမံများအပြင်၊ အသေးစိတ်အစီအစဉ်များထပ်မံရေးဆွဲ၍၊ ဧရာဝတီတိုင်း ဒေသကြီးဘက်စုံဖွံ့ဖြိုးတိုးတက်ရေးအတွက် နောက်ထပ်ရင်းနှီးမြှုပ်နှံမှုများကို တိုင်းဒေသကြီးအစိုးရအဖွဲ့၏ လမ်းညွှန်ချက်ခွင့်ပြုချက်များဖြင့် ကြိုးပမ်းဆောင်ရွက်သွားမည် ဖြစ်ပါသည်။

# အခန်း (၄)

## အကောင်အထည်ဖော်ဆောင်မည့်လုပ်ငန်းစဉ်

### ဆောင်ရွက်ခဲ့ပြီးသောလုပ်ငန်းများ

ကုမ္ပဏီ မဖွဲ့စည်းခင်ကတည်းက ဒါရိုက်တာအဖွဲ့ဝင်များသည် စပါးခွံလောင်စာတောင့် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်ရန် စိတ်အားထက်သန်ခဲ့ကြသည်။ လုပ်ငန်းအကြိုအစည်းဝေးများ အကြိမ်ကြိမ် ကျင်းပ၍ ရှေ့ဆက်ဆောင်ရွက်ရမည့် လုပ်ငန်းစဉ်များကို အသေးစိတ်ဆွေးနွေးခဲ့ကြသည်။ အားလုံးအများ ပေါင်းစည်းမှု၊ အရင်းမတည်ထည့်ဝင်မှု၊ စိတ်တူကိုယ်သူ သာအတူညီမျှ စိတ်ဓာတ်ဖြင့် မတူသည်များကို အသာဖယ်၊ တူညီမှုများမှ လက်တွဲ အဖြေရှာခြင်းဖြင့် လုပ်ငန်းစတင်ဆောင်ရွက်ရန် ဆုံးဖြတ်ခဲ့ကြခြင်းဖြစ်သည်။

ယခု လုပ်ငန်းအဆိုပြုအစီရင်ခံစာ မပြုစုခင်ကတည်းက လုပ်ငန်း အကောင်အထည်ဖော်ဆောင် ရွက်သွားမည့် နေရာ၊ ဝယ်ယူတပ်ဆင်မည့်စက်ပစ္စည်း၊ စီးပွားရေး အစီအစဉ်များ စသည့်တို့ကို ညီညွတ်သော သဘောတူမှုဖြင့် ရွေးချယ်သတ်မှတ်ခဲ့ ဆောင်ရွက်ခဲ့ပြီးဖြစ်သည်။ ထို့ကြောင်လည်း လုပ်ငန်းတည်ဆောက်မည့် မြေနေရာရွေးချယ်ခြင်း၊ လက်ရှိလယ်လုပ်၊ အမည်ပေါက်သူအား ခင်မင်သောစိတ်ဓာတ်၊ အကျိုးကို မပျက်စီးစေသော စိတ်စေတနာ ကောင်းဖြင့် ကာလပေါက်ဈေးအကိုင်း ငွေအကြေပေးချေ၍ လက်ရောက် ရယူခဲ့သည်။

လုပ်ငန်း အောင်အောင်မြင်မြင် မြန်မြန်ဆန်ဆန် တည်ဆောက်နိုင်ပြီး ကုန်ချောများ သွက်လက်စွာ ထုတ်လုပ်နိုင်ရေး အတွက် ဒါရိုက်တာအဖွဲ့ဝင်အားလုံးက အားထုတ်ကြိုးပမ်းရန် ရည်သန်လျှက်ရှိပါသည်။

### ဆက်လက်အကောင်အထည်ဖော်မည့် လုပ်ငန်းစဉ်များ

ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ဝန်ကြီးချုပ်ထံမှ လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရန် ခွင့်ပြုမိန့်နှင့်ရရှိသည်နှင့် နှောင်နှေးကြန့်ကြာခြင်းမရှိဘဲ မြန်ဆန်စွာ အကောင်အထည်ဖော်ဆောင်ရွက်ရန် အောက်ပါလုပ်ငန်းစဉ်များကို ချမှတ် ထားပြီးဖြစ်သည်။

ဆောင်ရွက်ပြီးစီးခဲ့သောလုပ်ငန်းစဉ်များနှင့် ဆက်လက်ဆောင်ရွက်မည့်လုပ်ငန်းစဉ် တို့ကို အချိန်နှင့် တပြေးညီ ဆောင်ရွက်လုပ်ကိုင်ရန် လုပ်ငန်းစဉ်ပြဇယားကို အောက်တွင် ဖော်ပြထားသည်။

ဇယား (၄–၁) လုပ်ငန်းစဉ်ပြဇယား

| စဉ် | လုပ်ငန်းစဉ် | 1st Month | | | | 2nd Month | | | | 3rd Month | | | | 4th Month | | | | 5th Month | | | | 6th Month | | | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | | 1 | 2 | 3 | 4 | 1 | 2 | 3 | 4 | 1 | 2 | 3 | 4 | 1 | 2 | 3 | 4 | 1 | 2 | 3 | 4 | 1 | 2 | 3 | 4 |
| ၁ | လုပ်ကိုင်ခွင့်ရရှိခြင်း | ■ | | | | | | | | | | | | | | | | | | | | | | | |
| ၂ | လုပ်ငန်းအနီးနေထိုင်သူများနှင့်တွေ့ဆုံခြင်း | ■ | | | | | | | | | | | | | | | | | | | | | | | |
| ၃ | မြေသားပြုပြင်ခြင်း | | ■ | ■ | | | | | | | | | | | | | | | | | | | | | |
| ၄ | ဆောက်လုပ်ရေးအလုပ်များ ကွပ်ကဲရန် ယာယီတဲဆောက်ခြင်း | | ■ | | | | | | | | | | | | | | | | | | | | | | |
| ၅ | ခြံစည်းရိုးကာခြင်း | | | | ■ | ■ | ■ | | | | | | | | | | | | | | | | | | |
| ၆ | အုတ်မြစ်တူးခြင်း | | | | | | ■ | ■ | ■ | | | | | | | | | | | | | | | | |
| ၇ | လိုအပ်သောပစ္စည်းများထားရှိခြင်း | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ |
| ၈ | လုပ်ငန်း ၏ ၃၀ ရာနှုန်းပြီးစီးခြင်း | | ■ | ■ | ■ | ■ | ■ | | | | | | | | | | | | | | | | | | |
| ၉ | လုပ်ငန်း၏ ၃၀ ရာနှုန်းပြီးစီးခြင်း | | | | | ■ | ■ | ■ | ■ | ■ | ■ | | | | | | | | | | | | | | |
| ၁၀ | စက်ပစ္စည်းများဝယ်ယူမှာကြားခြင်း | | | | | | | | | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | | | | | |
| ၁၁ | လုပ်ငန်း ၏ ၄၀ ရာနှုန်းပြီးစီးခြင်း | | | | | | | | | | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ | | | |
| ၁၂ | စက်ပစ္စည်းများတပ်ဆင်ခြင်း | | | | | | | | | | | | | | | | | ■ | ■ | ■ | ■ | ■ | ■ | ■ | ■ |
| ၁၃ | ကုန်ကြမ်းများဝယ်ယူစုဆောင်းခြင်း | | | | | | | | | | | | | | | | | | | ■ | ■ | ■ | ■ | ■ | ■ |
| ၁၄ | လျှပ်စစ်ကြိုးသွယ်တန်းခြင်း | | | | | | | | | | | | | | | | | | | ■ | ■ | ■ | ■ | ■ | ■ |
| ၁၅ | Transformer တပ်ဆင်ခြင်း | | | | | | | | | | | | | | | | | | | | ■ | ■ | | | |
| ၁၆ | စက်များအစမ်းလည်ပတ်ခြင်း | | | | | | | | | | | | | | | | | | | | | | ■ | | |
| ၁၇ | စက်များစတင်လည်ပတ်ခြင်း | | | | | | | | | | | | | | | | | | | | | | | ■ | ■ |

# အခန်း (၅)

## ရင်းနှီးမြှုပ်နှံမှုနှင့် စက်ပစ္စည်းဝယ်ယူတပ်ဆင်ခြင်း

**နိဒါန်း**

လုပ်ငန်းတည်ဆောက်ခြင်း၊ လိုအပ်သောစက်ပစ္စည်းများဝယ်ယူခြင်း၊ ဆက်စပ်ပစ္စည်းများဝယ်ယူခြင်း၊ တပ်ဆင်ခြင်း တို့ကို Amazing Advanced Transforming & Manufacturing Co.,Ltd (AATM Co.,Ltd) အနေဖြင့် အပြည့်အဝရင်းနှီးမြှုပ်နှံဝယ်ယူမည်ဖြစ်သည်။ ယခုအကောင်အထည်ဖော်ဆောင်ရွက်မည်ဖြစ်သော စပါးခွံလောင်စာတောင်ထုတ်လုပ်ရောင်းချခြင်းသည် AATM Co.,Ltd ၏အပြည့်အဝရင်းနှီးမြှုပ်နှံမှုဖြစ်သည်။

ဝယ်ယူမည့်ပစ္စည်းစာရင်းနှင့် ခန့်မှန်းကုန်ကျတန်ဖိုး၊ စုစုပေါင်း ကုန်ကျတန်ဖိုး (လုပ်ငန်းတည်ဆောက်ခြင်းအတွက် ရင်းနှီးမြှုပ်နှံမှုတန်ဖိုးကို ဇယား (၅–၁) တွင် ဖော်ပြထားသည်။

**ဇယား (၅–၁) စုစုပေါင်းကုန်ကျတန်ဖိုး**

| စဉ် | အကြောင်းအရာ | တန်ဖိုး (ကျပ်သိန်း) | တန်ဖိုး (ကျပ်သိန်း) | မှတ်ချက် |
|---|---|---|---|---|
| ၁။ | **အခြေခံအဆောက်အဦးတည်ဆောက်ခြင်း** | | | |
| | လုပ်ငန်းတည်ဆောက်မည့်မြေတန်ဖိုး | ၅၇၀ | | ဝယ်ယူပြီး |
| | စက်ရုံတည်ဆောက်ကုန်ကျစရိတ် | ၄၀၀ | | |
| | အမှတ်စဉ် (၁) စုစုပေါင်းကုန်ကျတန်ဖိုး | | ၉၇၀ | |
| ၂။ | **စက်ပစ္စည်းများဝယ်ယူတပ်ဆင်ခြင်း** | | | |
| | စပါးခွံလောင်စာတောင်စက် နှင့်ဆက်စပ်ပစ္စည်းများ[၁] | | ၉၄၁ | ပြည်ပမှ |
| ၃။ | လျှပ်စစ်နှင့်ဆက်စပ်ပစ္စည်းများ[၂] | | ၁၈၀ | |
| ၄။ | လုပ်ငန်းလည်ပတ်ရန်ထားရှိငွေ[၃] | | ၄၀၉ | |
| | စုစုပေါင်းကုန်ကျတန်ဖိုး (ခန့်မှန်းခြေ) | | ၂၅၀၀ | |

## ရှင်းလင်းချက်

၁။ စပါးခွံလောင်စာတောင်စက်(Pellet)၊စပါးခွံသိုလှောင်ကန်၊ စက်ပစ္စည်း များတပ်ဆင်ခ အစရှိသည် ကုန်ကျစရိတ်များပါဝင်သည်။ စပါးခွံလောင်စာတောင့်စက်ကို ပြည်ပမှမှာယူမည်ဖြစ်ပြီး၊ မှာယူမည့် စက်ပစ္စည်းစာရင်းနှင့်ကုန်ကျစရိတ်ကို ဇယား (၅–၂)ဖြင့်ရှင်းလင်း ထားသည်။ ထုတ်လုပ်သူအညွှန်းရှင်းလင်းချက်ကိုပူးတွဲ (၁–၅) တွင် တင်ပြထားသည်။

၂။ လျှပ်စစ်နှင့်ဆက်စပ်ပစ္စည်းများ ၊ မီးကြိုးသွယ်တန်းစရိတ် အစရှိသည့်တို့ကိုဇယား (၅–၃)တွင်ဖော် ပြထားသည်။

၃။ ကုန်ကြမ်းဝယ်ယူစရိတ်၊ ကုန်ချောပို့ဆောင်စရိတ်၊ ဈေးကွက်နှင့်အရောင်းမြင့်တင်ခြင်းစရိတ် နှင့် အခြား လုပ်ငန်း လည်ပတ်စရိတ်များအတွက်ထားရှိခြင်းဖြစ်သည်။

၄။ ပြည်ပမှာမှာယူခြင်းအတွက် စုစုပေါင်းကုန်ကျတန်ဖိုး (စက်ပစ္စည်းတန်ဖိုးနှင့်လျှပ်စစ်ပစ္စည်းတန်ဖိုး )မှာ သိန်းပေါင်း (၉၈၂.၈)ဖြစ်သည်။

ဇယား (၅–၂) စက်ပစ္စည်းစာရင်းနှင့်ကုန်ကျစရိတ်

| စဉ် | စက်ပစ္စည်းအမျိုးအစား | အရေအတွက် | တစ်ခုတန်ဖိုး (USD) | စုစုပေါင်း(USD) | စုစုပေါင်း (မြန်မာကျပ်) သိန်းပေါင်း |
|---|---|---|---|---|---|
| ပြည်ပမှဝယ်ယူမည်စက်ပစ္စည်း | | | | | |
| ၁။ | PSJ506 belt conveyor | ၂ | ၁၁၀၀ | ၂၂၀၀ | ၂၈.၆ |
| ၂။ | PS508 belt conveyor | ၂ | ၁၂၅၀ | ၂၅၀၀ | ၃၂.၅ |
| ၃။ | PSJ5012 belt conveyor | ၁ | ၁၉၀၀ | ၁၉၀၀ | ၂၄.၇ |
| ၄။ | 6th XJG560 pellet machine | ၂ | ၂၇၆၀၀ | ၅၅၂၀၀ | ၇၁၇.၆ |
| ၅။ | LQC2.5 Simple pellet cooler unit | ၁ | ၉၆၀၀ | ၉၆၀၀ | ၁၂၄.၈ |
| စုစုပေါင်းစက်ပစ္စည်းတန်ဖိုး | | | | | ၉၂၈.၂ |
| ၆။ | တပ်ဆင်ခ | | | | ၁၂.၈ |
| **စုစုပေါင်းကုန်ကျတန်ဖိုး** | | | | | ၉၄၁ |

**(1USD = 1300ကျပ်)**

ဇယား (၅–၃) လျှပ်စစ်နှင့်ဆက်စပ်ပစ္စည်းများကုန်ကျစရိတ်

| စဉ် | စက်ပစ္စည်းအမျိုးအစား | အရေအတွက် | တစ်ခုတန်ဖိုး (USD) | စုစုပေါင်း(USD) | စုစုပေါင်း (မြန်မာကျပ်) သိန်းပေါင်း |
|---|---|---|---|---|---|
| ပြည်ပမှဝယ်ယူမည်စက်ပစ္စည်း | | | | | |
| ၁။ | Frequency changer | ၂ | ၄၀၀ | ၈၀၀ | ၁၀.၄ |
| ၂။ | Magnet plate | ၂ | ၁၂၀၀ | ၂၄၀၀ | ၃၁.၂ |
| ၃။ | Electrical control cabinet | ၁ | ၁၀၀၀ | ၁၀၀၀ | ၁၃.၀ |
| စုစုပေါင်းစက်ပစ္စည်းတန်ဖိုး | | | | | ၅၄.၆ |
| ၄။ | မီးစက်နှင့်အခြားဆက်စပ်ပစ္စည်းများ | | | | ၁၂၅.၄ |
| **စုစုပေါင်းကုန်ကျတန်ဖိုး** | | | | | ၁၈၀.၀ |

**(1USD = 1300ကျပ်)**

**ဇယား (၅–၄) ပြည်ပမှမှာယူမည့်စာရင်းစုစုပေါင်းနှင့်ခန့်မှန်းကုန်ကျတန်ဖိုး**

| စဉ် | ပစ္စည်းအမျိုးအမည် | HS Code (ဂဏန်း၄လုံးဖြင့်ဖော်ပြရန်) | ရေတွက်ပုံ | အရေအတွက် | တစ်ခုချင်းတန်ဖိုး USD | စုစုပေါင်းတန်ဖိုး USD | စုစုပေါင်း (မြန်မာကျပ်) သိန်းပေါင်း |
|---|---|---|---|---|---|---|---|
| 1. | PSJ506 belt conveyor | 8428330000 | ခု | ၂ | ၁၁၀၀ | ၂၂၀၀ | ၂၈.၆ |
| 2. | PS508 belt conveyor | 8428330000 | ခု | ၂ | ၁၂၅၀ | ၂၅၀၀ | ၃၂.၅ |
| 3. | PSJ5012 belt conveyor | 8428330000 | ခု | ၁ | ၁၉၀၀ | ၁၉၀၀ | ၂၄.၇ |
| 4. | Frequency changer | 8479909090 | ခု | ၂ | ၄၀၀ | ၈၀၀ | ၁၀.၄ |
| 5. | Magnet plate | 8479909090 | ခု | ၂ | ၁၂၀၀ | ၂၄၀၀ | ၃၁.၂ |
| 6. | 6th XJG560 pellet machine | 84793000 | ခု | ၂ | ၂၇၆၀၀ | ၅၅၂၀၀ | ၇၁၇.၆ |

| | | | | | | | |
|---|---|---|---|---|---|---|---|
| 7. | LQC2.5 Simple pellet cooler unit | 84198990.90 | ခု | ၁ | ၉၆၀၀ | ၉၆၀၀ | ၁၂၄.၈ |
| 8. | Electrical control cabinet | | ခု | ၁ | ၁၀၀၀ | ၁၀၀၀ | ၁၃.၀ |
| **ပြည်ပမှာယူမည့်စက်ပစ္စည်းစုစုပေါင်းတန်ဖိုး** | | | | | | ၇၅၆၀၀ | ၉၈၂.၈ |

**မှတ်ချက် ။** ။ ပြည်ပမှ မှာယူထားသော စက်ပစ္စည်းများကို နိုင်ငံခြားငွေဖြင့် ပေးချေရမည်ဖြစ်ပြီး၊ ယင်းတန်ဖိုးကို လက်ရှိဈေးကွက်ပေါက်ဈေးဖြင့်တွက်ချက်ထားသည်။ ပြည်ပမှ မှာယူခြင်းကြောင့် အခြားမမျှော်မှန်းနိုင်သော ကုန်ကျစရိတ်များ ထပ်မံကုန်ကျမည်ဖြစ်သည်။ လုပ်ငန်းမှ တစ်နှစ်အတွင်း ထုတ်လုပ်တန်ဖိုး (ကုန်ချော)၊ အခြားသော စရိတ်များ၊ အသားတင်အမြတ် ခန့်မှန်းတန်ဖိုးနှင့် တစ်နှစ်အတွင်း နိုင်ငံတော်သို့ အခွန်ထမ်းဆောင်မည့် ပမာဏတို့ကို အခန်း (၆) တွင် အသေးစိတ်တွက်ချက် ရှင်းလင်းထားသည်။

# အခန်း (၆)

## ကုန်ကြမ်းတန်ဖိုး၊ ထုတ်လုပ်မှုကုန်ကျစရိတ်၊ အသားတင်အမြတ်

### ကုန်ကြမ်းကုန်ကျစရိတ်

ကုန်ကြမ်းအနေဖြင့်စပါးခွံကို အသုံးပြုပါသည်။ စပါးခွံသည် ဆန်စက်များမှစွန့်ပစ် ပစ္စည်းအဖြစ်ထွက်ရှိမည် ဖြစ်သည်။ AATM Co.,Ltd အနေဖြင့် ရေရှည်ပူးပေါင်းဆောင်ရွက်လိုသည် ရည်ရွယ်ချက်နှင့် ကုန်ကြမ်း မပြတ်ရ ရှိရေးအတွက် စပါးခွံကို သင့်တင်သောဈေးပေး၍ ဝယ်ယူသွားမည်။ ကုန်ကြမ်းကုန်ကျစရိတ်အနေဖြင့် ကုန်ကြမ်း သယ်ယူရန်လိုအပ်ပါက ကုန်ကြမ်းသယ်ယူခကို ထည့်သွင်းတွက်ချက်ရမည်ဖြစ်သည်။

### အခြားကုန်ကျစရိတ်များ

ထုတ်လုပ်မှုဖြစ်စဉ်အနေဖြင့် စက်ပစ္စည်းများလည်ပတ်ရန် လျှပ်စစ်ကို အဓိကအသုံးပြုရပြီး စက်ပစ္စည်းများ ပြင်ဆင်ခြင်းကို စီမံကိန်းအကောင်အထည်ဖော်ဆောင်သူ ၏ အတွေ့အကြုံကောင်းများကို အခြေခံ၍ တွက်ချက် ထားပါသည်။ ကုန်ကျစရိတ်တစ်ခုချင်းစီအတွက် တွက်ချက်မှုများကို အသေးစိတ်ရှင်းလင်းချက်များ ဖြင့်ရှင်းလင်း ထားပါသည်။

အသားတင်အမြတ်တွက်ချက်မှုနှင့် ကုန်ကြမ်းစရိတ်၊ အလုပ်ရုံစရိတ်များကို ဇယားတွင် အသေးစိတ်တွက်ချက် ဖော်ပြထားပါ သည်။

| စဉ် | အကြောင်းအရာ | ကျပ်သိန်းပေါင်း | ကျပ်သိန်းပေါင်း | ကျပ်သိန်းပေါင်း |
|---|---|---|---|---|
| ၁ | **၁ကုန်ချောရောင်းရတန်ဖိုး (အကြမ်း)** | | ၅၃၇၆ | |
| | (နုတ်) ကုန်ချောပို့ဆောင်စရိတ် | | ၁၁၅၂ | |
| | ကုန်ချောရောင်းရတန်ဖိုး (အသားတင်) | | | ၄၂၂၄ |
| ၂ | **ကုန်ကြမ်းစရိတ်များ** | | | |
| | စပါးခွံ | ၁၁၅၂ | | |
| | ကုန်ကြမ်းသယ်ယူစရိတ် | ၃၈၄ | | |
| | ကုန်ကြမ်းစရိတ်ပေါင်း | | ၁၅၃၆ | |
| ၃ | **အလုပ်ရုံလည်ပတ်စရိတ်** | | | |
| | လျှပ်စစ်ကုန်ကျစရိတ် | ၈၄၀ | | |
| | ထုတ်ပိုးအိတ်ခွံကုန်ကျတန်ဖိုး | ၄၆၀ | | |
| | စက်ပစ္စည်းပြင်ဆင်စရိတ် | ၁၀၀ | | |
| | အထွေထွေစရိတ် | ၂၀၀ | | |
| | နေ့စားဝန်ထမ်း (အမြဲတမ်း) | ၁၅၅ | | |
| | အုပ်ချုပ်မှုဝန်ထမ်း | ၁၀၀ | | |

| | | | | |
|---|---|---|---|---|
| | စာရင်းစစ်ခ | ၅၀ | | |
| | အရောင်းမြှင့်တင်ရေးအသုံးစရိတ် | ၁၀၀ | | |
| | အလုပ်ရုံသုံးကားအသုံးစရိတ် | ၁၂၀ | | |
| | အာမခံစရိတ် | ၅၀ | | |
| | အလုပ်ရုံလည်ပတ်စရိတ်ပေါင်း | | ၂၁၇၅ | |
| ၄ | ²တန်ဖိုးလျော့လျာထား | | | |
| | စက်ပစ္စည်းတန်ဖိုးလျော့ | | | |
| | အဆောက်အဦးတန်ဖိုးလျော့ | | | |
| ၅ | ကုန်ကျစရိတ်စုစုပေါင်း (၂ + ၃ + ၄) | | | ၃၇၁၁ |
| ၆ | တစ်နှစ်ခန်းမှန်းအမြတ် (၁ – ၅) | | | ၅၁၃ |

**ရှင်းလင်းချက်**

၁။ ကုန်ချောတစ်တန် ၆၅၀၀၀ကျပ်နှုန်း x တစ်ရက် တန်၂၄ x တစ်နှစ်လျှင် ရက်ပေါင်း ၂၄၀ (ရုံးပိတ်ရက်နှင့် အခြားအကြောင်းခြင်းရာများကြောင့် အလုပ်နားရက်များကိုထည့်သွင်းခြင်းမရှိပါ)

၂။ တန်ဖိုးလျော့လျားထားခြင်းကို ပထမတစ်နှစ်အတွက် ထည့်သွင်းတွက်ချက်ခြင်းမရှိပါ။

**ဝန်ထမ်းလစာပေးချေရန်လျာထားမှုများ**

| စဉ် | ရာထူး | ဦးရေ | တစ်လနှုန်းထား (သိန်း) | တစ်နှစ်ပေးချေမှု (သိန်း) |
|---|---|---|---|---|
| | **အုပ်ချုပ်မှုဝန်ထမ်း** | | | |
| ၁။ | မန်နေဂျာ | ၁ | ၄ | ၄၈ |
| ၂။ | ကြီးကြပ်ရေးမှူး | ၁ | ၃ | ၃၆ |
| ၃။ | ဆုကြေးငွေလျာထား | | | ၁၆ |
| | အုပ်ချုပ်မှုဝန်ထမ်းတစ်နှစ်လစာ | | | ၁၀၀ |
| | **အခြားအဆင့် (နေစား–အမြဲတမ်း)** | | တစ်ရက်နှုန်းထား (ကျပ်) | ရက်ပေါင်း၂၄၀ (သိန်း) |
| ၄။ | အလုပ်ကြပ် | ၂ | ၆၀၀၀ | ၂၈.၈ |
| ၅။ | အလုပ်ကူ | ၈ | ၅၀၀၀ | ၉၆.၀ |
| ၆။ | ဆုကြေးငွေလျာထား | | | ၃၀.၂ |
| | နေစားအလုပ်သမားများတစ်နှစ်လစာ | | | ၁၅၅.၀ |
| | **ကုန်ကြမ်း၊ကုန်ချောပို့ဆောင်နေစားအလုပ်သမား** | | တစ်ရက်နှုန်းထား (ကျပ်) | |
| ၁။ | အလုပ်ကူ (နေစား) | ၁၀ | ၅၀၀၀ | ၁၂၀ |
| | **လစာပေးချေရန်စုစုပေါင်းလျားထားတန်ဖိုး** | | | ၃၇၅ |

**ရှင်းလင်းချက်**

၁။ နေစားအလုပ်သမားများအတွက်လစာကို နိုင်ငံတော်အစိုးရကသတ်မှတ်ထားသောအနည်းဆုံး လုပ်ခနှုန်းထားထက် မနည်းရန်တွက်ချက်ထားပြီး၊ ကြိုးစားအားထုတ်မှုအလျောက်ဆုကြေးကို လျာထားပါသည်။

၂။ ကုန်ကြမ်းသယ်ယူပို့ဆောင်ခြင်း၊ ကုန်ချောတင်ပို့ရောင်းချခြင်းတို့အတွက်လည်း အမြဲတမ်းမဟုတ်သော နေစားလုပ်သား (၁၀)ဦးဖြင့်ဆောင်ရွက်လုပ်ကိုင်သွားမည်ဖြစ်ပြီး၊ နိုင်ငံတော်မှသတ်မှတ်ထားသော အနည်းဆုံး

လုပ်ခထက်မနည်း သောအဖိုးဖြင့်ပေးချေသွားမည်ဖြစ်သည်။ ယင်းစရိတ်များသည်ကုန်ကြမ်းသယ်ယူစရိတ်နှင့် ကုန်ချောပို့ဆောင်စရိတ်များတွင် ထည့်သွင်းတွက်ချက်ထားသည်။

၃။ အမြဲတမ်းဝန်ထမ်း (၁၂)ဦး၊ နေ့စားလုပ်သား (၁၀)ဦး၊ ဖြင့် စုစုပေါင်း (၂၂) ဦးခန့်ထားဆောင် ရွက်သွားမည်။

**လုပ်ငန်းမှထုတ်လုပ်သော စပါးခွံလောင်စာတောင့်ကိုဖြန့်ဖြူးရောင်းချသွားမည့် အစီအစဉ်**

လုပ်ငန်းမှ ထွက်ရှိမည်ဖြစ်သော စပါးခွံလောင်စာတောင့်ကို ထင်းအစားထိုးလောင်စာအဖြစ်ပြည်တွင်းတွင် တွင်တွင်ကျယ်ကျယ်အသုံးပြု ခြင်းဖြင့် ယခင်ရှင်းပြခဲ့ပြီးသောကောင်းကျိုးများရရှိရေးသည် ယခုအဆိုပြု လုပ်ငန်းဆောင်ရွက်မည့် AATM Co.Ltd ၏အဓိကရည်ရွက်ချက်ဖြစ်သည်။ ထုတ်လုပ်မှုမှရရှိသော စပါးခွံလောင် စာတောင့်ကို **ပြည်တွင်းတွင်သာ ရာနှုန်းပြည့်တွင်တွင်ကျယ်ကျယ် ရောင်းချသွားမည်ဖြစ်သည်။**

**လုပ်ငန်း၏ (၁၀) နှစ် အတွင်း လျာထားထုတ်လုပ်နိုင်မှု (တန်ပေါင်း)**

| စဉ် | ပထမနှစ် | ဒုတိယနှစ် | တတိယနှစ် | စတုမတ္တနှစ် | ပဥ္စမနှစ် | ဆဋ္ဌမနှစ် | သတ္တမနှစ် | အဋ္ဌမနှစ် | နဝမနှစ် | ဒသမနှစ် |
|---|---|---|---|---|---|---|---|---|---|---|
| ၁။ | ၅၇၆၀ | ၅၇၆၀ | ၅၇၆၀ | ၅၇၆၀ | ၅၇၆၀ | ၅၇၆၀ | ၅၇၆၀ | ၅၇၆၀ | ၅၇၆၀ | ၅၇၆၀ |
| | | | | | | | | | | |

**ရှင်းလင်းချက်** ။ ။ ယခုအဆိုပြုထားသောစက်တပ်ဆင်အားဖြင့်လည်ပတ်သည့်နှုန်းဖြင့်သာတွက်ချက်ခြင်းဖြစ်သည်။ တစ်ရက်လျှင် (၂၄)တန်နှုန်းဖြင့် ရက်ပေါင်း (၂၄၀)လည်ပတ်သည့်နှုန်းဖြင့်တွက်ချက်ထားခြင်းဖြစ်သည်။ စက်ပစ္စည်းအသစ်များထပ်မံတပ်ဆင်ခြင်း၊ ကုန်ကြမ်းပိုမိုရရှိခြင်း၊ ကုန်ချောအမှာများခြင်း အစရှိသည့် အကြောင်းများကြောင့် လုပ်ငန်းလည်ပတ်သည့်ရက်တိုးလာခြင်း၊ ထုတ်လုပ်နိုင်စွမ်းများတိုးလာခြင်း တို့ကြောင့်ထုတ်လုပ်မှုပမာဏတိုးလာမည်ဖြစ်သည်။

**လုပ်ငန်း၏ (၁၀) နှစ် အတွင်း နှစ်စဉ်ခန်းမှန်းလျာထားအမြတ် (နိုင်ငံတော်သို့ပေးသွင်းထမ်းဆောင်ရမည့်အခွန်ပမာဏမပါဝင်) (ကျပ်သိန်းပေါင်း)**

| စဉ် | ပထမနှစ် | ဒုတိယနှစ် | တတိယနှစ် | စတုမတ္တနှစ် | ပဥ္စမနှစ် | ဆဋ္ဌမနှစ် | သတ္တမနှစ် | အဋ္ဌမနှစ် | နဝမနှစ် | ဒသမနှစ် |
|---|---|---|---|---|---|---|---|---|---|---|
| ၁။ | ၅၁၃ | ၅၁၃ | ၅၁၃ | ၅၁၃ | ၅၁၃ | ၅၁၃ | ၅၁၃ | ၅၁၃ | ၅၁၃ | ၅၁၃ |
| | | | | | | | | | | |

**ရှင်းလင်းချက်** ။ ။ ၁။ ယခုတွက်ချက်ခြင်းသည်၊ စပါးခွဲလောင်စာတောင်၏ ယခုနှစ်ဈေးနှုန်းပေါ်အခြေခံတွက်ချက်ခြင်းဖြစ်သည်။ ဈေးကွက်ပိုမိုရရှိခြင်း၊ အရောင်းတိုးတက်ခြင်းဖြင့်အမြတ်တိုးတက်လာမည်ဖြစ်သည်။ အမြတ်ရရှိမှုနည်းပါးသော်လည်း ဧရာဝတီတိုင်းအတွင်းအလုပ်အကိုင် ဖန်တီးပေးနိုင်ခြင်း၊ ထင်းအသုံးပြုမှုသက်သာစေခြင်းဖြင့် သစ်တောများထိန်းသိမ်းစေခြင်း၊ ကာဗွန်ထုတ်လုပ်မှုလျော့ချစေခြင်း၊ ထုတ်လုပ်သောလောင်စာသည် အခိုးအငွေ့ထုတ်လွှတ်မှုလုံးဝနီးပါးမရှိခြင်းကြောင့် သန့်ရှင်းသော ပတ်ဝန်းကျင်ကို ဖန်တီးနိုင်ခြင်း၊ စသည့် ကောင်းကျိုးများ၏ တန်ဖိုး (အခြားသဘာဝပတ်ဝန်းကျင်ကောင်းကျိုးတန်ဖိုးနှင့် ကာဗွန်လျော့ချနိုင်မှုအကျိုးတန်ဖိုးကို အပြည်ပြည်ဆိုင်ရာနှုန်းထားများဖြင့်တွက်ချက်နိုင်ပါက )ကိုထည့်သွင်းတွက်ချက်မည်ဆိုပါက အမြတ်အစွန်းများစွာဖြစ်ထွန်းသောလုပ်ငန်းဖြစ်သည်။

**လုပ်ငန်းမှဧရာဝတီတိုင်းအတွင်းအလုပ်အကိုင်အခွင့်ဖန်တီးနိုင်မှုအနေဖြင့်ခန့်အပ်ဝန်ထမ်းနှင့် နေစားဝန်ထမ်းများ၏ (၁၀)နှစ်အတွင်း ပေးချေမည့် လျာထားလစာ (ကျပ်သိန်းပေါင်း)**

| စဉ် | ပထမနှစ် | ဒုတိယနှစ် | တတိယနှစ် | စတုမတ္ထနှစ် | ပဥ္စမနှစ် | ဆဋ္ဌမနှစ် | သတ္တမနှစ် | အဋ္ဌမနှစ် | နဝမနှစ် | ဒသမနှစ် |
|---|---|---|---|---|---|---|---|---|---|---|
| ၁။ | ၁၀၀ | ၁၀၀ | ၁၀၀ | ၁၀၀ | ၁၀၀ | ၁၀၀ | ၁၀၀ | ၁၀၀ | ၁၀၀ | ၁၀၀ |
| ၂။ | ၁၅၅ | ၁၅၅ | ၁၅၅ | ၁၅၅ | ၁၅၅ | ၁၅၅ | ၁၅၅ | ၁၅၅ | ၁၅၅ | ၁၅၅ |
| ၃။ | ၁၂၀ | ၁၂၀ | ၁၂၀ | ၁၂၀ | ၁၂၀ | ၁၂၀ | ၁၂၀ | ၁၂၀ | ၁၂၀ | ၁၂၀ |
| **စုစုပေါင်း** | ၃၇၅ | ၃၇၅ | ၃၇၅ | ၃၇၅ | ၃၇၅ | ၃၇၅ | ၃၇၅ | ၃၇၅ | ၃၇၅ | ၃၇၅ |

**ရှင်းလင်းချက်** ။ ။ တစ်နှစ်လျှင် ၃၇၅ သိန်းနှုန်းဖြင့်တွက်ချက်ခြင်းသည် ယခုနှစ် (၂၀၁၈) ခုနှစ်ပေါက်ဈေးအတိုင်းတွက်ချက်ခြင်းဖြစ်ပြီး၊ နိုင်ငံတော်အစိုးရ၏ အနည်းဆုံးသတ်မှတ်နှုန်းထား (၂၀၁၈) နှုန်းထားဖြင့်တွက်ချက်ခြင်းဖြစ်သည်။ အခါအားလျော်စွာ ပြောင်းလဲလာသောနှုန်းထားအတိုင်း၊ နိုင်ငံတော်မှ ပြောင်းလဲသတ်မှတ်သောနှုန်းအတိုင်း ပေးချေသွားမည်။

# အခန်း (၇)

## သဘာဝဘေးအန္တရာယ် ကင်းရှင်းရေး အစီအမံများ၊ ပတ်ဝန်းကျင်ထိန်းသိမ်းခြင်းအတွက် စီစဉ် ဆောင်ရွက်ထားရှိမှုများ၊ လူမှုအကျိုးပြုလုပ်ငန်းများတွင် ပါဝင်ဆောင်ရွက်ရန်အစီစဉ်များ

### မိတ်ဆက်

ယခု အဆိုပြုလုပ်ငန်းတွင် ဘေးအန္တရာယ်ကင်းရှင်းရေးဟု ဆိုရာတွင် – လုပ်ငန်းနှင့် သက်ဆိုင်သူများ (လုပ်ငန်း အကောင် အထည်ဖော် ဆောင်ရွက်သူများ၊ လုပ်ငန်းနှင့်ဆက်စပ်သူများ) လုပ်ငန်း အနီးပတ်ဝန်းကျင် နေထိုင်သူများ၊ ဧရာဝတီတိုင်းဒေသကြီးအတွင်းနေထိုင်သူများ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အတွင်းနေထိုင်သူများ သာမက လူသားမျိုးနွယ်အပါအဝင် ဇီဝသက်ရှိများအားလုံးအတွက် ရည်ရွယ်ပါသည်။ လုပ်ငန်း တည်ဆောက်ရေး လုပ်ငန်းများ ဆောင်ရွက်ချိန်၊ လုပ်ငန်းလုပ်ငန်းလည်ပတ်ဆောင်ရွက်ချိန် နှင့် လုပ်ငန်းဖျက်သိမ်းချိန် အားလုံး အတွင်း ဘေးအန္တရာယ်ကင်းရှင်းစေရန် ရည်ရွယ်သည်။ သဘာဝဘေးအန္တရာယ် အတွက် အရေးပေါ်အစီအစဉ်များ၊ အလုပ်ခွင်ဘေးအန္တရာယ်ကင်းရှင်းရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအမံများ၊ လူထု အကျိုးစီးပွားအတွက် ဆောင်ရွက်ရန်ရည်ရွယ်ထားသည်များကို ရှင်းလင်းတင်ပြထားပါသည်။

### (က) သဘာဝဘေးအန္တရာယ် အတွက် အရေးပေါ်အစီအစဉ်များ

လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်သည် ညောင်တုန်းမြို့နယ်သည် သဘာဝဘေးအန္တရာယ်များ မကြာခဏ ကျရောက်သောဒေသဖြစ်သည်။ လုပ်ငန်းအကောင်အထည်ဖော်သူအနေဖြင့် ဒေသဖွံ့ဖြိုးတိုးတက်ရေးကိုသာ ဦးစား ပေးစဉ်းစားခဲ့ပါသည်။ အောက်ပါအစီအစဉ်များရေးဆွဲ အကောင်အထည်ဖော်ဆောင်ရွက်သွားပါမည်။

#### ၁။ သက်ဆိုင်ရာအစိုးရအဖွဲ့ဌာနများ၊ လူထုအခြေပြုအဖွဲ့များနှင့် တွေ့ဆုံခြင်းနည်းလမ်း

အထက်ပါ အဖွဲ့အစည်းများနှင့် တွေ့ဆုံ၍ အကောင်းဆုံးပြင်ဆင်မှုများ၊ ကြိုတင်ဆောင်ရွက်ထားသင့်သည်များကို အကြံဉာဏ်များတောင်းခံခြင်း၊ လုပ်ငန်းအတွင်းဖိတ်ခေါ်၍ လိုအပ်ချက်များမေးမြန်းခြင်း၊ သဘာဝဘေးအန္တရာယ် ကျရောက်ပါက အထက်ပါ အဖွဲ့အစည်းများသို့ လုပ်ငန်းအနေဖြင့်ဆောင်ရွက်ပေးနိုင်သည်များ၊ လုပ်ငန်းသို့

အထက်ပါ အဖွဲ့အစည်းများမှ ပံ့ပိုးဆောင်ရွက်ပေးနိုင်သည်များကို အသေးစိတ်ဆွေးနွေးဆောင်ရွက်သွားမည် ဖြစ်သည်။

**၂။ ပညာပေးလေ့ကျင့်ခြင်းအစီအစဉ်**

နိုင်ငံတော်အစိုးရမှ အခါအားလျော်စွာ ညွှန်ကြားချက်များ၊ အထက်ပါ အဖွဲ့အစည်းများမှ အကြံပြုချက်များကို လုပ်ငန်း အနီးဝန်းကျင်နေထိုင်သူများ၊ လုပ်ငန်းဆောင်ရွက်နေသူများအား အသိပညာထပ်ဆင့်ဖြန့်ဝေခြင်း၊ အကြံပြု ချက်များရယူခြင်း၊ ကြိုတင် ဇာတ်တိုက်လေ့ကျင့်ခြင်းများ ဆောင်ရွက်သွားမည်ဖြစ်သည်။ လိုအပ်သောပစ္စည်း များကိုလည်းဝယ်ယူထားရှိမည်။ လုပ်ငန်းအတွင်း ထားရှိသောပစ္စည်းများသည် သဘာဝဘေးအန္တရာယ်ကျရောက် က လူထုအားထိခိုက်ခြင်းမရှိစေရန် အစီအမံများထားရှိမည်။

**၃။ သဘာဝဘေးအန္တရာယ်ကျရောက်ပါကဆောင်ရွက်ရမည့်အစီအမံများရေးဆွဲထားရှိခြင်း**

ဘေးအန္တရာယ်ကျရောက်ပါ ဦးစားပေးဆောင်ရွက်ရမည့်အစီအစဉ်များရေးဆွဲထားရှိမည်။ လုပ်ငန်းမှ အခြားသူများ အား ဘေးကင်းစေရေး၊ လုပ်ငန်းအတွင်းနှင့်လုပ်ငန်းဝန်းကျင်နေထိုင်သူများသာမက ဘေးအန္တရာယ်ဇုန်အတွင်းရှိ သက်ရှိတို့အားအတက်နိုင်ဆုံးကူညီဆောင်ရွက်သွားမည့် အစီအစဉ်များ ရေးဆွဲသွားမည်။

## (ခ) အလုပ်ခွင်ဘေးအန္တရာယ်ကင်းရှင်းရေးအစီအစဉ်များ

လုပ်ငန်းအတွင်း မတော်တဆဖြစ်မှုလုံးဝ မဖြစ်ပေါ်စေရန် လုပ်ငန်း အကောင်အထည်ဖော်သူတို့အားလုံး ကြိုးစား အားထုတ်ကြမည်။ ထိုသို့မပေါ်ပေါက်စေရန်အောက်ပါအဆင့်အတိုင်းဆောင်ရွက်သွားမည်။

**(၁) လုပ်ငန်းကျွမ်းကျင်မှုလေ့ကျင့်ပေးခြင်းနှင့်တိုင်ပင်ဆွေးနွေးခြင်း**

လုပ်ငန်းအတွင်း လုပ်ငန်းလုပ်ကိုင်သူများအား လုပ်ငန်းကျွမ်းကျင်မှုရှိစေရန်သင်တန်းများပေးခြင်း၊ တက်ရောက် စေခြင်း၊ အခြားစိတ်ခံစားမှုများလျော့ကျစေရန် ဆွေးနွေးနှစ်သိမ့်ခြင်း၊ ဘေးအန္တရာယ်ကင်းရှင်းရေး သင်တန်းများ တက်ရောက်စေခြင်း၊ လုပ်ငန်းကျယ်ပြန့်လာပါက တာဝန်ခံတစ်ဦးသီးသန့်ခန့်ထား၍ ဆောင်ရွက်စေခြင်းတို့ကိုလုပ် ဆောင်သွားမည်ဖြစ်သည်။

**(၂) အခြားအာဏာပိုင်အဖွဲ့အစည်းများနှင့်ပူးပေါင်းဆောင်ရွက်ခြင်း**

လုပ်ငန်းခွင်အတွင်းဘေးအန္တရာယ်ကင်းရှင်းရေးအတွက် မီးသတ်ဌာန၊ ကြက်ခြေနီအဖွဲ့အစည်းများ၊ ရပ်ကျေးအခြေ ပြု အဖွဲ့တို့နှင့်ဆက်သွယ်၍ ၎င်းတို့ထံမှ အကြံပြုချက်များရယူခြင်း၊ ပူးပေါင်းဆောင်ရွက်ခြင်းတို့အပြင် ဘေးအန္တရာယ်ကင်းရှင်းစေရေးအတွက် ပြဋ္ဌာန်းထား သော ဥပဒေများအတိုင်း လိုက်နာဆောင်ရွက်ခြင်း၊ အစစ်ဆေးခံခြင်း၊ ပူးပေါင်းဆောင်ရွက်ခြင်းတို့ကို ဆောင်ရွက်သွားမည်ဖြစ်သည်။

### (ခ) လိုအပ်သောပစ္စည်းများထားရှိခြင်းနှင့် စစ်ဆေးခြင်း

မီးငြိမ်းသတ်ရေးနှင့်ပက်သော ကိရိယာများထားရှိခြင်း၊ လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေးအတွက် လိုအပ်သော အခြား ပစ္စည်းများထားရှိခြင်း၊ ထားရှိသော ပစ္စည်းများ မှန်ကန်စွာအသုံးပြုရေး၊ အမြဲမပြတ် ဂရုပြု သုံးစွဲစေရေးတို့အတွက် စောင့်ကြည့်စစ်ဆေးခြင်းအစီအမံများထားရှိသွားမည်။

### (ဂ) သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအမံများ

သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ထိခိုက်မှုလျော့ကျရေးမှာ– ယခုလုပ်ငန်း၏ ပင်မပန်းတိုင်ဖြစ်ပါသည်။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်တွင်ပြဌာန်းထားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊နည်းဥပဒေများ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ဥပဒေ၊ နည်းဥပဒေ၊ အစိုးအဌေ့ထုတ်လုပ်မှု လမ်းညွှန်ချက် တို့ကို လုပ်ငန်း၏ လုပ်ငန်းစဉ် အဆင့်အားလုံးတွင် ဂရုပြုလိုက်ဆောင်ရွက်သွားမည်ဖြစ်သည်။

ယခုလုပ်ငန်းသည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးကို များစွာအထောက်အကူပြုသည်။ ထင်းအစားထိုး လောင်စာဖြစ်သော စပါးခွံလောင်စာထုတ်လုပ်သည့်လုပ်ငန်းဖြစ်သည့်အတွက် သဘာဝပတ်ဝန်းကျင်ကို များစွာ ကောင်းကျိုးပြုသည့်လုပ်ငန်းဖြစ်သည်။ လုပ်ငန်း တည်ဆောက်ချိန်၊ လုပ်ငန်းလည်ပတ်ချိန်၊ လုပ်ငန်းပိတ်သိမ်းဖျတ် သိမ်းချိန် တို့တွင် သဘာဝပတ်ဝန်းကျင်သို့ စွန့်ထုတ်မှုအညစ်အကြေး နည်းနိုင်သမျှ နည်းအောင်ဆောင်ရွက်သွားရန် အတွက် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းခြင်းအစီအမံများရေးဆွဲဆောင်ရွက်သွားမည်။

**အစီအမံအကျဉ်းချုပ်မှာ – တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ချိန်အတွင်း လေထုညစ်ညမ်းမှု၊ ရေထုညစ်ညမ်းမှု၊ မြေဆီလွှာညစ်ညမ်းမှု၊ အသံဆူညံမှု မဖြစ်ပွားစေရန် အသေးစိတ်စောင့်ကြပ် ကြည့်ရှုကြပ်မတ် သွားမည်ဖြစ်သည်။ စောင့်ကြပ်ကြည့်ရှုရေးပူးပေါင်းအဖွဲ့ကို ရပ်ရွာအခြေပြုပြည်သူများဖြင့် ဖွဲ့စည်းပြီး၊ တိုးတက်မှုအခြေအနေများ၊ ထိခိုက်မှုအခြေအနေများကို ရပ်ရွာဒေသခံ၊ အဏာပိုင်အဖွဲ့တို့နှင့် ပူးပေါင်း၍ လုပ်ငန်း အကောင်အထည်ဖော်ဆောင်ရွက်သူ ကတာဝန်ယူ ဖြေရှင်းသွားမည်ဖြစ်သည်။ လုပ်ငန်းလည်ပတ်ချိန်တွင်လည်း ပူးပေါင်းစောင့်ကြပ်ကြည့်ရှုသွားမည်ဖြစ်သည်။ လုပ်ငန်းဖျတ်သိမ်းခြင်းအဆင့်တွင်လည်း ပတ်ဝန်းကျင်ထိခိုက်မှု နည်းနိုင်သမျှနည်းအောင်အသေးစိတ် အစီအမံများချမှတ်ဆောင်ရွက်သွားမည်ဖြစ်သည်။**

### (ဃ) လူထုအကျိုးပြုလုပ်ငန်းများတွင်ပူးပေါင်းရန်အစီအမံများ

လုပ်ငန်း အကောင်အထည်ဖော်ဆောင်ရွက်သူများသည် ဧရာဝတီတိုင်းဒေသကြီး ဖွံ့ဖြိုးတိုးတက်ရေးအတွက် စိတ်ရင်းစေတနာ အမှန်ဖြင့်ဆောင်ရွက်လိုခြင်းဖြစ်သည်။ ဤလုပ်ငန်းအကောင်အထည်ဖော်ခြင်း အဆင့်အားလုံးတွင် ဒေသခံများကို ဦးစားပေးခန့်အပ်သွားမည်ဖြစ်သည်။ လုပ်ငန်းကျွမ်းကျင်မှုရှိအောင် အသိပညာပေး သင်တန်းများဖွင့် လှစ်ခြင်း၊ အလုပ်ခွင် လေ့လာသင်ယူခြင်း သင်တန်းများကို ဒေသခံများအား ဦးစားပေး သင်ကြား လေ့လာခွင့်ပြုခြင်း အစီအစဉ်များဆောင်ရွက်ခြင်း၊ သဘာဝဘေးအန္တရာယ် ကာကွယ်ထူထောင်ခြင်းအတွက် ကျွမ်းကျင်ပညာရှင်များ ဖိတ်ခေါ်၍ သင်တန်းများပေးခြင်း၊ ပတ်ဝန်းကျင်စိမ်းလန်း စိုပြေရေးအတွက် လူထု သစ်ပင်

စိုက်ပွဲများတွင် လုပ်ငန်းမှပူးပေါင်းပါဝင်ခြင်း၊ ရင်သွေးငယ်များအတွက် အဟာရတိုက်ကျွေးခြင်းတို့ကို ဆောင်ရွက်သွားရန်စီစဉ်ထားရှိပါသည်။

# အခန်း (၈)

## အထွေထွေသုံးသပ်ချက်များ

### အခြားသောလုပ်ငန်းများလုပ်ငန်းဆောင်ရွက်နေပုံ

ဧရာဝတီတိုင်းအတွင် စပါးခွံလောင်စာတောင့်ထုတ်လုပ်သည့် လုပ်ငန်းများကို ပြည်တွင်းမှထုတ်လုပ်သော စက်များဖြင့် သော်လည်းကောင်း၊ ပြည်ပမှ မှာယူထားသော စက်များဖြင့်သော်လည်းကောင်း၊ ထုတ်လုပ်လျှက်ရှိပါသည်။ စပါးခွံလောင်စာတောင့်များကို ဆန်စက်များတွင်ဘွိုင်လာ အပူပေးရန်အတွက်လည်းကောင်း၊ လျှပ်စစ်ဓာတ်အား ထုတ်ယူရန် အတွက်လည်းကောင်း တွင်တွင်ကျယ်ကျယ် လုပ်ကိုင်လျက်ရှိကြသည်။

### လုပ်ငန်းများတည်ဆောက်ရန်လိုအပ်လျှက်ရှိပုံ

သို့သော် ဈေးကွက်လိုအပ်ချက် ကို လုံလောက်စွာ ဖြည့်စည်းပေးနိုင်ခြင်းမရှိသေးပါ။ ထွက်ရှိနေသော ကုန်ကြမ်းများ (ဆန်ကြိတ်ဖွတ်ခြင်းဖြစ်စဉ်မှ စွန့်ပစ်) အားလုံးကိုလည်း အသုံးဝင်သော ကုန်ချောများအဖြစ် လုံးဝမပြောင်းလဲနိုင်သေးပါ။

### မှတ်ချက် ။ ။

❖ ကုန်ကြမ်းဖြစ်သော စွန့်ပစ်စပါးခွံများ၏ စိန်ခေါ်မှုများနှင့် ပတ်ဝန်းကျင်အပေါ် ဆိုးကျိုး သက်ရောက်မှုများကို အခန်း (၁) လုပ်ငန်းအစီရင်ခံစာအကျဉ်းချုပ်၊ ကုန်ကြမ်းအကြောင်း ရှင်းလင်း ချက်တွင် ရှင်းလင်း ဖော်ပြထားပါသည်။

❖ ကုန်ချောဖြစ်သော စပါးခွံလောင်စာတောင့်များ၏ အသုံးဝင်ပုံ၊ တိုင်းပြည်စက်မှုလုပ်ငန်းများအတွက် များစွာ အထောင်အကူဖြစ်စေပုံကို အခန်း (၁) လုပ်ငန်းအစီရင်ခံစား အကျဉ်းချုပ်။ ကုန်ချော အကြောင်း ရှင်းလင်းချက်တွင် ရှင်းလင်းဖော်ပြထားပါသည်။

### လုပ်ငန်းမှရရှိသောကောင်းကျိုးများ

လုပ်ငန်းကြောင့်–

- စပါးခွံသုံးဘွိုင်လာအမျိုးမျိုးတွင် ရရှိနေသော အပူစွမ်းအင်ထက် ပိုမိုတောက်လောင်နိုင်သော စွမ်းအားရရှိသောကြောင့် ဖွဲပြာ၏ ဘေးထွက်ဆိုးကျိုး မရှိတော့ဘဲ စိုက်ပျိုးရေး လုပ်ငန်းတွင် မြေသြဇာအဖြစ် အသုံးပြုရန်သင်လျော်သော ပိုတက်ဆီယမ် (K) ပါရှိသော ပြာမှုန်များသာထွက်ရှိမည့် ကောင်းကျိုးများအပြင့်
- သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်းအတွက်ကောင်းကျိုးများဖြစ်သော
    - ❖ ဆန်စက်များမှ ထွက်ရှိသော စပါးခွံ (ဖွဲ) များကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုကို ထိရောက်စွာ လျော့ချပေးနိုင်ခြင်း၊

- ❖ ထင်းအစားထိုး လောင်စာအဖြစ် အသုံးပြုနိုင်သောကြောင့် သစ်တောများပြုန်းတီးမှုကို ထိရောက်စွာ လျော့ချနိုင်ခြင်း၊
- ❖ ကျောက်မီးသွေး အစားထိုးလောင်စာအဖြစ် အသုံးပြုနိုင်သောကြောင့် လေထုညစ်ညမ်းမှုကို ထိရောက်စွာ လျော့ချနိုင်ခြင်း၊
- ❖ ဒီဇယ်အစားထိုးလောင်စာအဖြစ် အသုံးပြုနိုင်သောကြောင့် လုပ်ငန်းလုပ်ငန်းရှင်များ ထုတ်လုပ်မှုစရိတ် သိသိသာသာ လျော့ချနိုင်ပြီး ထုတ်ကုန်များ ဈေးနှုန်းသက်သာစွာ ထုတ်လုပ်နိုင်ခြင်းနှင့် နိုင်ငံတော်အတွက် ပြည်ပငွေ စီးဆင်းမှုကို လျော့ချနိုင်ခြင်း၊
- ❖ စပါးခွံ (ဖွဲ) အစားထိုးလောင်စာအဖြစ် အသုံးပြုနိုင်သောကြောင့် စပါးခွံ (ဖွဲ) အသုံးပြုသော ဘွိုင်လာများတွင် စပါးခွံ (ဖွဲ) ဘွိုင်လာများမှထွက်သောဖုန်မှုန့်နှင့် လေထုညစ်ညမ်းမှုကို သိသိသာသာ လျော့ချနိုင်သောကြောင့် စပါးခွံ (ဖွဲ) ဘွိုင်လာ အသုံးပြုသော လုပ်ငန်း ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးကို ကောင်းမွန်တိုးတက်စေနိုင်ပါသည်။

စသည့်ကောင်းကျိုးများရရှိစေနိုင်ပါသည်။

## လုပ်ငန်းတည်ဆောက်မည့်ကုမ္ပဏီ

အထက်ပါကောင်းကျိုးအဖြာဖြာကို ဆောင်ကျဉ်းပေးနိုင်သော လုပ်ငန်းကို ငွေကြေးအမြတ်အစွန်းထက် "ဧရာဝတီတိုင်း ဒေသကြီးဖွံ့ဖြိုးတိုးတက်ရေးကို အစဉ်ရှေးရှုသော AATM ကုမ္ပဏီက ဆောင်ရွက်သွား မည်ဖြစ်သည်။ ကုမ္ပဏီ၏ အကြောင်း၊ ဖွဲ့စည်းရခြင်းရည်ရွယ်ချက် အသေးစိတ်ရှင်းလင်းချက်ကို အခန်း (၂)၊ ကုမ္ပဏီ အကြောင်း တွင်လည်းကောင်း၊ ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းတို့ကို ပူးတွဲစာ (၁–၁) တွင် လည်းကောင်း ရှင်းလင်းဖော်ပြထားသည်။

## လုပ်ငန်း (လုပ်ငန်းတည်ဆောက်ခြင်း၊လုပ်ငန်းလည်ပတ်ခြင်း)အတွက်ဆက်သွယ်ရမည့်သူ

ဤလုပ်ငန်းတည်ဆောက်ခြင်း၊ ယခုလုပ်ငန်းနှင့်သော်လည်းကောင်း၊ ကုမ္ပဏီနှင့်ပက်သက်၍ အသေးစိတ် သိရှိ လိုသည်များကို စုံစမ်းမေးမြန်းလိုသော်လည်းကောင်း၊ လုပ်ငန်းနှင့်ပက်သက်၍ လိုအပ်သည့် ခွင့်ပြုမိန့်များ၊ ညွှန်ကြား ချက်များကို ထုတ်ပြန် အသိပေးလိုသော်လည်းကောင်း၊ လုပ်ငန်းကြောင့် (သို့) လုပ်ငန်းတည်ဆောက်ခြင်းကြောင်း (သို့) လုပ်ငန်းလည်ပတ်ခြင်းကြောင့် အကျိုးနစ်နာမှုများအတွက် ဆွေးနွေးလိုသော်လည်းကောင်း၊ တိုင်တန်းလိုသော် လည်းကောင်းအစရှိသည့်တို့အတွက် ကုမ္ပဏီ၏မှတ်ပုံတင်လိပ်စာသို့လည်းကောင်း၊ ရုံးခွဲသို့လည်း ကောင်း စာဖြင့်ဖြစ်စေ၊ တယ်လီဖုန်းဖြင့် ဖြစ်စေ၊ လူကိုယ်တိုင်လာရောက်၍ ဖြစ်စေ၊ E-mail ဖြင့်ဖြစ်စေ တာဝန်ခံ များထံသို့ဆက်သွယ်နိုင်ပါသည်။

အကယ်၍ ကုမ္ပဏီရုံးချုပ်သို့တိုက်ရိုက်ဆက်သွယ်လိုပါ ကုမ္ပဏီဒါရိုက်တာအဖွဲ့သို့ဖြစ်စေ၊ ဒါရိုက်တာအဖွဲ့ကိုယ်စား

**ဦးအေးကို**

**အုပ်ချုပ်မှုဒါရိုက်တာ**

**ဖုန်းအမှတ်–၀၉၇၉၁၆၀၆၈၁၆၊ ၀၉၅၁၈၁၄၆၈** သို့ဖြစ်စေတိုက်ရိုက်ဆက်သွယ်နိုင်ပါသည်။

**ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်တိုင်းဒေသကြီးဝန်ကြီးချုပ်တို့ထံမှလိုအပ်သောခွင့်ပြုချက်များ**

သို့ဖြစ်ပါ၍ ကျွန်ုပ်တို့AATMကုမ္ပဏီအား အထက်တွင်ဖော်ပြရှင်းလင်းခဲ့သော နေရာ–ဦးပိုင်အမှတ် (၂၂၈)၊ ကွင်းအမှတ် (၄၀၉)၊ ညောင်တုန်း–ဆားမလောက်လမ်း၊ တူးချောင်း ကျေးရွာ၊ ညောင်တုန်း မြို့နယ်၊ မအူပင်ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီး ပေါ်တွင် လုပ်ငန်းတည်ဆောက်၍ စပါးခွံလောင်စာတောင့် ထုတ်လုပ်ရောင်းချခြင်းကို အကောင်အထည်ဖော်ဆောင်ရွက်ခွင့်၊ လုပ်ငန်း တည်ဆောက်ခွင့်၊ လိုအပ်သော စက်ပစ္စည်းများကို ပြည်ပမှ မှာယူတင်သွင်းခွင့်၊ လုပ်ငန်းအတွင်း ဆက်စပ်ပစ္စည်း များကို ဝယ်ယူတပ်ဆင်ခွင့်၊ လုပ်ငန်းလည်ပတ်လုပ်ကိုင်ခွင့်၊ လိုအပ်သော လျှပ်စစ်ဓာတ်အားကို မြန်မာလျှပ်စစ်ဓာတ်အားမှ ရယူသုံးစွဲခွင့်၊ မီးကြိုးနှင့် Transformer တပ်ဆင်အသုံးပြုခွင့်နှင့် မြေယာအသုံးပြုခွင့်တို့ကို ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ခွင့်ပြုပေးရန်လိုအပ်လျှက် ရှိပါသည်။

**ကုမ္ပဏီ၏အာမခံမှုများ**

ခွင့်ပြုမိန့် ရရှိပါကလည်းလုပ်ငန်းကို လျာထားချက်အတိုင်းသတ်မှတ်ကာလတွင် အမြန်ဆုံးအကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဖြစ်ပြီး၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ရှိ အစိုးရမှပြဋ္ဌာန်းထားသော ဥပဒေများ၊ နည်းဥပဒေများ နှင့် တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အခါအားလျော်စွာ ထုတ်ပြန်ကြေညာသော ညွှန်ကြားချက်များကို လေးစားလိုက်နာ သွားမည်ဖြစ်ပါသည်။ ထို့အပြင် အပြည်ပြည်ဆိုင်ရာ အလေ့အကျင့်ကောင်းများကိုလည်း လိုက်နာကျင့်သုံး၍ အပြည်ပြည်ဆိုင်ရာတွင် အမည်ကောင်းရှိသောစီးပွားရေးလုပ်ငန်းအဖြစ် ကြိုးစားသွားမည်ဖြစ်ပါသည်။

**လုပ်ငန်းလုပ်ကိုင်ခွင့်အဆိုပြုခြင်းအစီရင်ခံစာတွင်ဖော်ပြရှင်းလင်းထားသည်များ**

ယခုလုပ်ငန်းအဆိုပြုအစီရင်ခံစာတွင် လုပ်ငန်းအကြောင်းအကျဉ်းဖော်ပြချက်၊ ကုမ္ပဏီအကြောင်း ရှင်းလင်းချက်၊ ရင်းနှီးမြှုပ်နှံမှုပမာဏ၊ ထုတ်လုပ်မှုကုန်ကျစရိတ်နှင့် ဈေးကွက်အခြေအနေသုံးသပ်ချက်၊ သဘာဝဘေးအန္တရာယ် နှင့် လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေးအစီအမံများ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအမံများအပါအဝင် နှင့် အတူလိုအပ်သော အထောက်အထားများကို ပူးတွဲ အနေဖြင့် တင်ပြထားပါသည်။ အသေးစိတ်သိရှိလိုသည်များနှင့် လိုအပ်သည့် အစီအစဉ်များအတွက် သီးခြားအစီရင်ခံစာများတွင် ဖော်ပြရှင်းလင်းသွားမည်ဖြစ်ပါသည်။

## ပူးတွဲစာများ

ပူးတွဲ (၁–၁) ကုမ္ပဏီတရားဝင် ဖွဲ့စည်းခွင့် ရရှိထားသော ခွင့်ပြုမိန့်၊ သင်းဖွဲ့မှတ် တမ်းနှင့် သင်းဖွဲ့ စည်းမျဉ်းမိတ္တူ

ပူးတွဲ (၁–၂) စီမံကိန်းကိုအကောင်အထည်ဖော်သူများ၏နိုင်ငံသားစီစစ်ရေးကဒ်မိတ္တူများ

ပူးတွဲ (၁–၃) မြေယာပိုင်ဆိုင်မှု အထောက်အထားနှင့် စာချုပ်စာတမ်းမိတ္တူများ

ပူးတွဲ (၁–၄) စပါးခွံလောင်စာတောင့် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်မည်ဖြစ်သောအလုပ်ရုံပုံစံ

ပူးတွဲ (၁–၅) တင်သွင်းမည့် စပါးခွံလောင်စာတောင့်ထုတ်စက်၏ ထုတ်လုပ်သူ အညွှန်းရှင်းလင်းချက် (producer's catalogue)

ပူးတွဲ (၁–၆) ကုမ္ပဏီ၏ ငွေကြေးအခြေနေပြ ဘဏ်စာရင်းလင်းချက် (company shareholders' bank statement)

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# အမေးဇင်း အက်ဗန့်(ချ်) ထရန်စဖောမင်း အင်(န်) မန်နယူဖက်ချားရင်း ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖ ❖

THE MYANMAR COMPANIES ACT

**PRIVATE COMPANY LIMITED BY SHARES**

**Memorandum Of Association**

*AND*

**Articles Of Association**

*OF*

# AMAZING ADVANCED TRANSFORMING & MANUFACTURING COMPANY LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# အမေးဇင်း အက်ဗန့်(ချ်) ထရန်စဖောမင်း အင်(န်) မန်နယူဖက်ချားရင်း ကုမ္ပဏီ လီမိတက်

၏

**သင်းဖွဲ့မှတ်တမ်း**

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ကုမ္ပဏီ၏အမည်သည် **အမေးဇင်း အက်ဗန့်(ချ်) ထရန်စဖောမင်း အင်(န်) မန်နယူဖက်ချားရင်း ကုမ္ပဏီ လီမိတက်** ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည်ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၄။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၅၀၀၀၀၀၀၀၀၀ /-( ကျပ် **သန်းငါးထောင်** တိတိ ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀၀.၀၀ /-( ကျပ် **တစ်သိန်း** တိတိ ) တန်အစုရှယ်ယာပေါင်း ( ၅၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ အထွေထွေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

## (၁) ကုမ္ပဏီမှဆောင်ရွက်မည့် လုပ်ငန်းရည်ရွယ်ချက်များမှာ-

(၁) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၂) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၃) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၄) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊
(၅) ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊
(၆) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၇) လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၈) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊
(၉) လယ်ယာကိုင်းကျွန်းနှင့် ဥယာဉ်ခြံမြေထွက်ကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၁၀) သစ်တောထွက်ပစ္စည်းနှင့် ထပ်ဆင့်တိုးတန်ဖိုးမြင့် သစ်အခြေခံ ကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၁၁) တိရစ္ဆာန်ထွက် ကုန်ပစ္စည်းနှင့် တိရစ္ဆာန်အစားအစာ ရောင်းဝယ်ခြင်း၊
(၁၂) ရေထွက်ကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၁၃) ဓါတ်မြေဩဇာနှင့် ပိုးသတ်ဆေးများ ရောင်းဝယ်ခြင်း၊
(၁၄) ဓာတုဗေဒနှင့် ဓာတ်ဆေးဆိုးဆေးများ ရောင်းဝယ်ခြင်း၊
(၁၅) စက်ရုံသုံးပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၁၆) အိမ်သုံးကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၁၇) လူသုံးကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၁၈) ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများနှင့် သုတ်ဆေးများ ရောင်းဝယ်ခြင်း၊
(၁၉) လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၂၀) ယာဉ်နှင့်စက်ကိရိယာနှင့် အပိုပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၂၁) ကိရိယာတန်ဆာပလာအမျိုးမျိုး ရောင်းဝယ်ခြင်း၊
(၂၂) ဆေးနှင့်ဆေးပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၂၃) စားသောက်ကုန်နှင့် အထွေထွေကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၂၄) အထည်အလိပ်နှင့် အဝတ်အထည်များ ရောင်းဝယ်ခြင်း၊
(၂၅) စက္ကူ၊ စာရေးကိရိယာနှင့် ဓာတ်ပုံပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၂၆) ရုံးသုံးပစ္စည်းများနှင့် ပညာရေးအထောက်အကူပစ္စည် ရောင်းဝယ်ခြင်း၊
(၂၇) လယ်ယာကိုင်းကျွန်းနှင့် ဥယာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိပ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊
(၂၈) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊
(၂၉) တိရိစ္ဆာန်မွေးမြူခြင်းနှင့် တိရိစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊
(၃၀) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊
(၃၁) ဓါတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရိစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း၊
(၃၂) အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊
(၃၃ ) အေဂျင်စီလုပ်ငန်းအမျိုးမျိုး၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှု အတိုင်ပင်ခံများနှင့် အကြံပေး ဝန်ဆောင်မှုလုပ်ငန်းများ၊
(၃၄) ကြော်ငြာနှင့် ကြော်ငြာ ကိုယ်စားလှယ် လုပ်ငန်းများ၊
(၃၅) ဖျော်ဖြေရေးလုပ်ငန်းနှင့် ယင်းနှင့် ပတ်သက်သည့် လုပ်ငန်းများ
(၃၆) ဆေးဝန်ဆောင်မှု လုပ်ငန်းအမျိုးမျိုး၊
(၃၇) သယ်ယူပို့ဆောင်ရေး လုပ်ငန်း၊ (မီးရထားနှင့် လေကြောင်းမှအပ)
(၃၈) ပုံနှိပ်ထုတ်ဝေခြင်း လုပ်ငန်း၊
(၃၉) တိုင်းတာရေးနှင့် စစ်ဆေးရေး လုပ်ငန်း၊
(၄၀) စီမံကိန်းသစ်များ၌ ဖြစ်မြောက်နိုင်စွမ်း ရှိမရှိ လေ့လာခြင်း၊ စီမံကိန်းပုံစံများချမှတ်ခြင်း၊ စီမံကိန်း ကုန်ကျစရိတ်ခန့်မှန်းခြင်းနှင့် တန်ဖိုးတွက်ချက်ခြင်းလုပ်ငန်းများ၊
(၄၁) စာရင်းရေးသွင်းခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေ အကြံပေး ဝန်ဆောင်မှု လုပ်ငန်းများ၊
(၄၂) ယာဉ်နှင့် စက်ကိရိယာအမျိုးမျိုး ကြံ့ခိုင်ရေးပြုလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်းလုပ်ငန်းများ၊
(၄၃) လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ တပ်ဆင်ခြင်း၊ ပြုပြင်ခြင်းနှင့် မွမ်းမံ တည်ဆောက် ခြင်း လုပ်ငန်းများ၊
(၄၄) ဆောက်လုပ်ရေးလုပ်ငန်း၊
(၄၅) ကျောက်မျက်လုပ်ငန်း၊
(၄၆) ခရီးသွားလုပ်ငန်း၊
(၄၇) ဟိုတယ်လုပ်ငန်း၊

(၂) ကုမ္ပဏီမှ သင့်တော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့် ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း ၊ ကုမ္ပဏီ ၊ ဘဏ် ၊ သို့မဟုတ် ၊ ငွေကြေး အဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန် ။

ခြွင်းချက် ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတ မြန်မာ နိုင်ငံတော် အတွင်း၌ ဖြစ်စေ ၊ အခြား မည်သည့် အရပ်ဒေသ၌ဖြစ်စေ ၊ အချိန်ကာလ အလိုက် တည်မြဲနေသော တရားဥပဒေများ ၊ အမိန့်ကြော်ငြာစာများ ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင် ဆောင်ရွက်ခြင်းမပြုပါ ။ ထို့အပြင် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ အချိန် ကာလ အားလျော်စွာ တည်မြဲနေသည့် တရား ဥပဒေပြဋ္ဌာန်းချက်များ ၊ အမိန့် ကြော်ငြာစာများ ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ၊ ခွင့်ပြုထားရှိခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည် အသီးသီးနှင့် ယှဉ်တွဲ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏အမည်၊<br>နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲ<br>လက်မှတ် |
|---|---|---|---|---|
| ၁ | ဦး တင်ဦး<br>ကုန်သည်<br>အမှတ်-၄၂ ဘီ၊ အင်းယားလမ်းမကြီး၊<br>ကမာရွတ်မြို့နယ် ရန်ကုန်တိုင်းဒေသကြီး | ၁၂/လမတ(နိုင်)၀၂၁၄၅၁ | ၁၀၂၀ | |
| ၂ | ဦး အေးကို<br>ကုန်သည်<br>အခန်းအမှတ်-၇၀၈၊ တိုက်အမှတ်(စီ)၊ ပုလဲကွန်ဒို၊<br>ကမ္ဘာအေးဘုရားလမ်းမကြီး၊ ဆရာစံရပ်ကွက်၊<br>ဗဟန်းမြို့နယ် ရန်ကုန်တိုင်းဒေသကြီး | ၁၂/ဥကမ(နိုင်)၀၆၁၇၇၄ | ၂၈၀ | |
| ၃ | ဦး မောင်မောင်တင်<br>ကုန်သည်<br>အမှတ်-၂၀/အေ၊ မလိခလမ်းမကြီး၊<br>မရမ်းကုန်းမြို့နယ် ရန်ကုန်တိုင်းဒေသကြီး | ၁၂/မရက(နိုင်)၀၃၂၂၅၇ | ၂၈၀ | |
| ၄ | ဦး အောင်ဇော်လင်း(ခ)အောင်ဇော်<br>ကုန်သည်<br>အမှတ်-၃၀၊ ၆-လွှာ၊ မအူပင်လမ်း၊<br>စမ်းချောင်းမြို့နယ် ရန်ကုန်တိုင်းဒေသကြီး | ၁၄/ပသန(နိုင်)၀၁၅၀၀၆ | ၂၈၀ | |

နေ့စွဲ ၊ ခုနှစ်၊ လ၊ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

'IN WAI B.Com;(AA);C.P.A(210)
'ERTIFIED PUBLIC ACCOUNTANT

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည် အသီးသီးနှင့် ယှဉ်တွဲ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| ၅ | ဦး ဖိုးသိကြား(ခ)ဦးတေဇမြင့်<br>ကုန်သည်<br>တိုက်အမှတ်-၈/၅၊ အခန်းအမှတ်-၅၁၊ ရန်အေးအိမ်ရာ၊ ရန်ကင်းမြို့နယ် ရန်ကုန်တိုင်းဒေသကြီး | ၁၂/ဗဟန(နိုင်)၀၅၄၀၃၆ | ၁၄၀ | Taygar |

နေ့စွဲ ၊ ခုနှစ်၊ လ၊ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

MIN WAI B.Com;(AA);C.P.A(210)
CERTIFIED PUBLIC ACCOUNTANT

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# အမေးဇင်း အက်ဗန့်(ချ်) ထရန်စဖောမင်း အင်(န်) မန်နယူဖက်ချားရင်း ကုမ္ပဏီ လီမိတက်

သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင် စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်း များသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုး သက်ရောက် စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်း မပြုလုပ်ရန် တားမြစ်ထားသည်။

## မ,တည် ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းမှာ ကျပ်မှာ ၅၀၀၀၀၀၀၀၀၀ /-(ကျပ် **သန်းငါးထောင်** တိတိ)ဖြစ်၍ ငွေကျပ် ၁၀၀၀၀၀.၀၀ /-(ကျပ် **တစ်သိန်း** တိတိ)တန်အစုရှယ်ယာပေါင်း ၅၀၀၀၀ ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း
သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြား ပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြား သက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည် ဖြစ်သည်။

